ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပုံစံ (၅-ခ)
စာအမှတ် - ၀၀၆၆၆
ရက်စွဲ - ၂၄-၅-၂၀၁၈
ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

KYNIC

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
# အတည်ပြုမိန့်

အတည်ပြုမိန့်အမှတ် ကရန- ၀၀၂ /၂၀၁၈ ၂၀၁၈ ခုနှစ် မေ လ ၂၄ ရက်

ကရင်ပြည်နယ် ရင်းနှီးမြှုပ်နှံမှု ကော်မတီ သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ-၂၅ ပုဒ်မခွဲ (ဃ) အရ ဤအတည်ပြုမိန့်ကိုထုတ်ပေးလိုက်သည် -

(၁) ရင်းနှီးမြှုပ်နှံသူအမည် မင်းမြတ်ဂုဏ် ကုမ္ပဏီ လီမိတက်

(၂) နိုင်ငံသား -

(၃) နေရပ်လိပ်စာ အမှတ် (၄/က) ၁၀၉၆၊ အမှတ်(၄) ရပ်ကွက်၊ မန်းအေးမြိုင်လမ်းနှင့် မေတ္တာလမ်း၊ ဘားအံမြို့၊ ကရင်ပြည်နယ်။

(၄) ပင်မအဖွဲ့အစည်းအမည်နှင့် လိပ်စာ -

(၅) ဖွဲ့စည်းရာအရပ် -

(၆) ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား ဖွဲကပင် သဘာဝဟိုတယ် အမည်ဖြင့် အဆင့်မြင့် ဟိုတယ်တည်ဆောက် လုပ်ကိုင်ခြင်းလုပ်ငန်း

(၇) ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ) ဦးပိုင်အမှတ် (N ၇၈)၊ ကွင်းအမှတ် (၁၁၈၆) ကမော့ကစင်ကျေးရွာ၊ ရဲသာကျေးရွာအုပ်စု၊ ဘားအံမြို့၊ ကရင်ပြည်နယ်။

(၈) နိုင်ငံခြား မတည်ငွေရင်း ပမာဏ -

(၉) နိုင်ငံခြားမတည်ငွေရင်း ယူဆောင်လာရမည့်ကာလ -

(၁၀) စုစုပေါင်း မတည်ငွေရင်း ပမာဏ(ကျပ်) ကျပ် ၄၅၀၀.၀၀ သန်း (အမေရိကန်ဒေါ်လာ ၀.၁၀၇ သန်း အပါအဝင်)

(၁၁) တည်ဆောက်မှု/ပြင်ဆင်မှုကာလ ၁ နှစ်

(၁၂) အတည်ပြုမိန့်သက်တမ်း -

(၁၃) ရင်းနှီးမြှုပ်နှံမှုပုံစံ ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှု

(၁၄) မြန်မာနိုင်ငံတွင်ဖွဲ့စည်းမည့်ကုမ္ပဏီအမည် MIN MYAT GONE COMPANY LIMITED (မင်းမြတ်ဂုဏ် ကုမ္ပဏီ လီမိတက်)

ဥက္ကဋ္ဌ
ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ**

သုခနုလမ်း၊ ပြည်နယ်အစိုးရအဖွဲ့ရုံး၊ ဘားအံမြို့၊ ကရင်ပြည်နယ်။

ဖုန်း ၀၅၈-၂၂၇၅၀
ဖက်(စ်) ၀၅၈-၂၂၇၆၉

စာအမှတ်၊ ကရန / ရနမ / ၂၀၁၈ ( ၀၀၆၆ )
ရက်စွဲ၊ ၂၀၁၈ ခုနှစ် မေ လ ၂၄ ရက်

အကြောင်းအရာ။ **Min Myat Gone Company Limited (မင်းမြတ်ဂုဏ် ကုမ္ပဏီ လီမိတက်) ၏ ဖွဲ့ကပင် သဘာဝဟိုတယ် အမည်ဖြင့် အဆင့်မြင့်ဟိုတယ် တည်ဆောက်လုပ်ကိုင်ခြင်း လုပ်ငန်း အတည်ပြုမိန့်အပေါ် ကရင်ပြည်နယ် ရင်းနှီးမြှုပ်နှံမှု ကော်မတီ၏ ဆုံးဖြတ်ချက်**

ရည် ညွှန်း ချက် ။ Min Myat Gone Company Limited ၏ ၂၃-၄-၂၀၁၈ ရက်စွဲပါ တင်ပြစာ

၁။ Min Myat Gone Company Limited (မင်းမြတ်ဂုဏ် ကုမ္ပဏီ လီမိတက်) မှ ဦးပိုင်အမှတ် (N-၇၈)၊ ကွင်းအမှတ် (၁၁၈၆)၊ ကမော့ကစင် အရှေ့ကွင်း၊ ရဲသာကျေးရွာ အုပ်စု၊ ဘားအံမြို့၊ ကရင်ပြည်နယ်ရှိ မြေဧရိယာ စုစုပေါင်း ၃.၁၀ ဧကတွင် ဖွဲ့ကပင် သဘာဝဟိုတယ် အမည်ဖြင့် အဆင့်မြင့်ဟိုတယ် တည်ဆောက် လုပ်ကိုင်ခြင်း လုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြခြင်းကို ၂၀၁၈ ခုနှစ် မေ လ ၁၇ ရက်နေ့တွင် ကျင်းပပြုလုပ်သော ကရင်ပြည်နယ် ရင်းနှီးမြှုပ်နှံမှု ကော်မတီ၏ (၂/၂၀၁၈) ကြိမ်မြောက်အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်းဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ ကရင်ပြည်နယ် ရင်းနှီးမြှုပ်နှံမှု ကော်မတီသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် နည်းဥပဒေများကို ကျင့်သုံးလျက် Min Myat Gone Company Limited (မင်းမြတ်ဂုဏ် ကုမ္ပဏီ လီမိတက်)အား ဖွဲ့ကပင် သဘာဝဟိုတယ် အမည်ဖြင့် အဆင့်မြင့်ဟိုတယ် တည်ဆောက် လုပ်ကိုင်ခြင်းလုပ်ငန်းအား ဆောင်ရွက်နိုင်ရန်အတွက် အတည်ပြုမိန့်အမှတ်၊ ကရန- ၀၀၂ /၂၀၁၈ ကို ထုတ်ပေးလိုက်သည်။

၂။ Min Myat Gone Company Limited (မင်းမြတ်ဂုဏ် ကုမ္ပဏီ လီမိတက်) အနေဖြင့် ဤအတည်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် အောက်ပါအချက်များကို လိုက်နာဆောင်ရွက်ရမည်-

(က) Min Myat Gone Company Limited (မင်းမြတ်ဂုဏ် ကုမ္ပဏီ လီမိတက်) အနေဖြင့် ဤအတည်ပြုမိန့်အရ ဖွဲ့ကပင် သဘာဝဟိုတယ် အမည်ဖြင့် အဆင့်မြင့်ဟိုတယ် တည်ဆောက်လုပ်ကိုင်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု

ဥပဒေပုဒ်မ ၇၅၊ ၇၇၊ ၇၈ အရ ကင်းလွတ်ခွင့်၊ သက်သာခွင့်များကို ပြဋ္ဌာန်းထားသည့် အချက်များနှင့်အညီ ခံစားခွင့်ပြုနိုင်ရန် လျှောက်ထားနိုင်သည်။

(ခ) Min Myat Gone Company Limited (မင်းမြတ်ဂုဏ် ကုမ္ပဏီ လီမိတက်) အနေဖြင့် ဤအတည်ပြုမိန့် အရ **ဝန်ဆောင်မှု ရည်မှန်းချက်များကို အကောင်းဆုံး** အကောင်အထည်ဖော် ဆောင်ရွက်ရမည်။

(ဂ) Min Myat Gone Company Limited (မင်းမြတ်ဂုဏ် ကုမ္ပဏီ လီမိတက်) အနေဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၆၅ နှင့် နည်းဥပဒေ အခန်း (၂၁) တို့တွင် ပြဋ္ဌာန်းထားသည့် ရင်းနှီးမြှုပ်နှံသူ၏ တာဝန်ဝတ္တရားများ နှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(ဃ) Min Myat Gone Company Limited (မင်းမြတ်ဂုဏ် ကုမ္ပဏီ လီမိတက်) သည် အတည်ပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) တို့ကို သက်ဆိုင်ရာ ဌာန၏ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ လမ်းညွှန်ချက်၊ စည်းမျဉ်း၊ စည်းကမ်းများနှင့်အညီ ဆောင်ရွက်ရမည်။

(င) Min Myat Gone Company Limited (မင်းမြတ်ဂုဏ် ကုမ္ပဏီ လီမိတက်) သည် ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်းသက်တမ်း ကာလအတွင်း အခြားပုဂ္ဂိုလ် တစ်ဦးဦးသို့ တစ်ဆင့် ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာ လွှဲပြောင်းခြင်းနှင့် လုပ်ငန်းလွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၇၂ နှင့် နည်းဥပဒေ ၁၉၁ အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သို့ တင်ပြရမည်။

(စ) Min Myat Gone Company Limited (မင်းမြတ်ဂုဏ် ကုမ္ပဏီ လီမိတက်) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၆ အရ ခွင့်ပြုမိန့် သို့မဟုတ် အခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ရရှိထားသော ရင်းနှီးမြှုပ်နှံသူသည် နှစ်စဉ် ဘဏ္ဍာရေးနှစ် ကုန်ဆုံးပြီးနောက် သုံးလအတွင်း သတ်မှတ်ချက်ပါ အသေးစိတ်များ ပါရှိသည့် နှစ်စဉ် အစီရင်ခံစာအား သတ်မှတ် ပုံစံဖြင့် ကုမ္ပဏီ၏ ဝက်(ဘ်)ဆိုဒ် (သို့မဟုတ်) ကော်မရှင်ရုံး၏ ဝက်(ဘ်)ဆိုဒ် သို့ တင်ပြရမည်။

(ဆ) Min Myat Gone Company Limited (မင်းမြတ်ဂုဏ် ကုမ္ပဏီ လီမိတက်) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၇ အရ လုပ်ငန်း ဆောင်ရွက်နေစဉ်အတွင်း လုပ်ငန်းအစီရင်ခံစာကို သုံးလလျှင် တစ်ကြိမ် ကော်မရှင်က သတ်မှတ်တောင်းခံသည့် ပုံစံဖြင့် တင်ပြရမည်။

၃။ Min Myat Gone Company Limited (မင်းမြတ်ဂုဏ် ကုမ္ပဏီ လီမိတက်) သည် အတည်ပြု လုပ်ငန်း ဆောင်ရွက်ရာတွင် လုပ်ငန်း သဘာဝအရ ဖြစ်စေ၊ အခြားလိုအပ်ချက်အရ ဖြစ်စေ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီး ဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့်ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ သက်ဆိုင်ရာဌာနနှင့် မြေငှားရမ်းခြင်း စာချုပ် ချုပ်ဆိုသည်ဖြစ်စေ၊ မှတ်ပုံတင်ရန် လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်များ နှင့်အညီ ဆောင်ရွက်ပြီး မိတ္တူ (၅) စုံစီ အား ကော်မတီသို့ ပေးပို့ရမည်။

(နန်းခင်ထွေးမြင့်)
ဥက္ကဋ္ဌ
(ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ)

**Min Myat Gone Company Limited**
**(မင်းမြတ်ဂုဏ် ကုမ္ပဏီ လီမိတက်)**
**ဖြန့်ဝေခြင်း-**
ပြည်ထဲရေးဝန်ကြီးဌာန
ပြည်ထောင်စုအစိုးရအဖွဲ့ရုံးဝန်ကြီးဌာန
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန
စက်မှုဝန်ကြီးဌာန
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန
ဟိုတယ်နှင့် ခရီးသွားလာရေး ဝန်ကြီးဌာန
ကရင်ပြည်နယ်အစိုးရအဖွဲ့ရုံး
ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဟိုတယ်နှင့် ခရီးသွားညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများ မော်ကွန်းတိုက် ဦးစီးဌာန

ညွှန်ကြားရေးမှူး၊ ပြည်နယ်စည်ပင်သာယာရေးအဖွဲ့ (ဘားအံမြို့)

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ ကရင်ပြည်နယ်ဦးစီးမှူးရုံး၊ ဘားအံမြို့

**Min Myat Gone Co., Ltd. မှ ကရင်ပြည်နယ်၊ ဘားအံမြို့၊ ကမော့ကစင်ကျေးရွာ၊ ရဲသာကျေးရွာအုပ်စု၊ ကွင်းအမှတ်(၁၁၈၆) ရှိ စုစုပေါင်း မြေဧရိယာ ၃.၁၀ ဧကပေါ်တွင် ဖွဲ့ကပင်သဘာဝဟိုတယ် အမည်ဖြင့် အဆင့်မြင့် ဟိုတယ်တည်ဆောက် လုပ်ကိုင်ခြင်းလုပ်ငန်းနှင့် စပ်လျဉ်းသည့်အဓိကအချက်များ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Min Myat Gone Co., Ltd. |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - Min Myat Gone Co., Ltd. |
| | ရင်းနှီးမြှုပ်နှံမှုပုံစံ | - မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှု |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - အခန်း (၂၀) ခန်းပါ ၂ ထပ် ဟိုတယ် အဆောက်အဦ ၁ လုံး၊ အခန်း (၁၂)ခန်းပါ ၂ထပ် RC VIP Guest House ၁ လုံး၊ အခန်း (၁၀)ခန်းပါ ၂ခန်းတွဲ Bungalow ၅ လုံး၊ အခန်း (၈)ခန်းပါ ၄ ခန်းတွဲ ၂ထပ် RC ၂ လုံး၊ လူပေါင်း(၅၀၀) ဆံ့ အဆောက်အဦ ၁ လုံး တို့ပါဝင်သော ဖွဲ့ကပင် သဘာဝ ဟိုတယ် အမည်ဖြင့် အဆင့်မြင့် ဟိုတယ် လုပ်ငန်း |
| ၄။ | လုပ်ငန်းတည်နေရာ / မြေအကျယ်အဝန်း | - ဦးပိုင်အမှတ် (N-၇၈)၊ ကွင်းအမှတ် (၁၁၈၆)၊ ကမော့ကစင် အရှေ့ကွင်း၊ ရဲသာကျေးရွာ အုပ်စု၊ ဘားအံမြို့၊ ကရင်ပြည်နယ်၊ ရှိ မြေဧရိယာ စုစုပေါင်း ၃.၁၀ ဧက |
| | မြေအကျယ်အဝန်း | - ၃.၁၀ ဧက |
| | မြေပိုင်ရှင် | - ဦးသိန်းဇော်မင်း |
| | အဆောက်အဦအကျယ်အဝန်း | - ၄၆'x၈၆'(၃၉၅၆) စတုရန်းပေ အကျယ်ရှိ ၃ထပ် RC ဟိုတယ် ၁ လုံး<br>- ၁၅'x၂၅'(၃၇၅) စတုရန်းပေ အကျယ်ရှိ ၂ထပ် RC ဟိုတယ် ၂ လုံး<br>- ၂၆'x၆၉'(၁၇၉၄) စတုရန်းပေ အကျယ်ရှိ (၄) ခန်းတွဲ ၂ထပ် RC VIP Guest House ၁ လုံး<br>- ၃၀'x ၄၃' (၁၂၉၀) စတုရန်းပေ အကျယ်ရှိ (၂) ခန်းတွဲ ဘန်ဂလို ၅ လုံး<br>- ၈၀'x၂၀၀' (၁၆၀၀၀) စတုရန်းပေ အကျယ်ရှိ လူပေါင်း (၅၀၀) ဆံ့ ခန်းမ ၁ လုံး |

| | | |
|---|---|---|
| | | - ၃၇'x၅၀' (၃၇၅) စတုရန်းပေ အကျယ်ရှိ ဧည့်ကြိုဆောင် ၁ လုံး |
| ၅။ | **စုစုပေါင်းမတည်ရင်းနှီးငွေ** | **- ကျပ် ၄၅၀၀.၀၀သန်း** |
| | - ငွေသားပမာဏ | - ကျပ် ၄၈၉,၈၁၅,၂၀၀ |
| | - အဆောက်အဦတန်ဖိုး(ပြည်တွင်း) | - ကျပ် ၃,၀၀၀,၀၀၀,၀၀၀ |
| | **- စက်ပစ္စည်းတန်ဖိုး** (ပြည်တွင်းဝယ်) | - ကျပ် ၈၀,၀၀၀,၀၀၀ |
| | (ပြည်ပဝယ်) | - US$ ၁၀၇,၀၀၀ |
| | **- ဟိုတယ်သုံးပစ္စည်းတန်ဖိုး** (ပြည်တွင်းဝယ်) | - ကျပ် ၂၈၅, ၇၃၄,၈၀၀ |
| | မြေတန်ဖိုး | - ကျပ် ၅၀၀,၀၀၀,၀၀၀ |
| ၆။ | မြေအမျိုးအစား | - လ/ယ-၃၀ (ဥယျာဉ်မြေ) |
| ၇။ | မြေအသုံးပြုခွင့်သက်တမ်း | - ၁၀ နှစ် |
| ၈။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ကနဦး(၃၀) နှစ် နောက်ထပ် (၁၀)နှစ် (၂)ကြိမ် |
| ၉။ | တည်ဆောက်ရေးကာလ | - ၁ နှစ် |
| ၁၀။ | စီးပွားဖြစ်စတင်ဆောင်ရွက်မည့်နှစ် | - ၂၀၁၉ |
| ၁၁။ | ဝန်ထမ်းအင်အား (**ပထမနှစ်**) | |
| | ပြည်တွင်း | - ၁၀၂ ဦး (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၁၀,၀၀၀နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၆၀၀,၀၀၀ ဖြစ်ပါသည်။) |
| | ပြည်ပ | - မရှိပါ။ |

<table>
<tr><td>၁၂။</td><td>ဝန်ဆောင်မှု(၈)နှစ်မြောက်</td><td>
<table>
<tr><th>စဉ်</th><th>အမျိုးအစား</th><th>အခန်းအရေအတွက်</th><th>ဝန်ဆောင်ခနှုန်း (ကျပ်)</th><th>ဝန်ဆောင်ခနှုန်း (US$)</th></tr>
<tr><td>၁</td><td>(က) Bungalow<br>(ခ ) Deluxe<br>(ဂ ) Standard</td><td>၁၀ ခန်း<br>၂၀ ခန်း<br>၂၀ ခန်း</td><td>၈၀,၀၀၀<br>၇၅,၀၀၀<br>၅၀,၀၀၀</td><td>၈၀<br>၇၅<br>၅၀</td></tr>
<tr><td>၃</td><td>Multipurpose Hall<br>(လူ ၅၀၀ ဆံ့)</td><td>၁ ခန်း</td><td>၇၀၀,၀၀၀</td><td>-</td></tr>
</table>
</td></tr>
<tr><td>၁၁။</td><td>ဝင်ငွေ (၈ နှစ်မြောက်)</td><td>- ကျပ် ၁,၁၇၅.၀၉၈,၇၅၀<br>- US$ ၃၈၉,၈၀၂</td></tr>
<tr><td>၁၂။</td><td>အသားတင်အမြတ် (၈ နှစ်မြောက်)</td><td>- ကျပ် ၃၃၉.၈၀၉,၄၇၂</td></tr>
<tr><td>၁၃။</td><td>နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (၈ နှစ်မြောက်)<br>- ဝင်ငွေခွန်<br>- အရင်းကြေကာလ</td><td><br><br>- ကျပ် ၁၁၃.၂၆၉,၈၂၄<br>- ၈ နှစ်</td></tr>
<tr><td>၁၄။</td><td>ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းမှရရှိမည့် တစ်နှစ် မျှော်မှန်းဝင်ငွေ</td><td>- ကျပ် ၉၈၄.၃၃ သန်း</td></tr>
<tr><td>၁၅။</td><td>လုပ်ငန်းမှရရှိသောတစ်နှစ်စာ နိုင်ငံခြား ဝင်ငွေ</td><td>- အမေရိကန်ဒေါ်လာ ၀.၁၅ သန်း</td></tr>
<tr><td>၁၆။</td><td>CSR</td><td>- ၂ %</td></tr>
<tr><td>၁၇။</td><td>အခြားတင်ပြချက်များ</td><td>(က) Min Myat Gone Co., Ltd.သည် ကုမ္ပဏီ မှတ်ပုံတင်အမှတ်- ၉ / ၁၆-၁၇ (ကရန) ဖြင့် (၁၈-၁-၂၀၁၇) ခုနှစ်တွင် ဖွဲ့စည်းထားသည့် ကုမ္ပဏီ မှတ်ပုံတင်ကဒ်၊ သင်းဖွဲ့စည်းမျဉ်း၊ သင်းဖွဲ့မှတ်တမ်း တို့အား တင်ပြထားပါသည်။<br>(ခ) Min Myat Gone Co., Ltd. သည် အတည်ပြု လျှောက်ထားလွှာ နှင့်အတူ မြေ အသုံးပြုခွင့်နှင့်အခွန်ကင်းလွတ်ခွင့်၊ သက်သာ</td></tr>
</table>

| | | |
|---|---|---|
| | | ခွင့် လျှောက်ထားလွှာ များအား ပူးတွဲတင်ပြ ထား ပါသည်။<br>(ဂ) မြေအထောက်အထားအဖြစ် ကရင်ပြည်နယ် အစိုးရ အဖွဲ့၏ ၁၀-၂-၂၀၁၆ ရက်နေ့ အစည်းအဝေး အမှတ်စဉ်(၆/၂၀၁၆) ဆုံးဖြတ်ချက် အမှတ် (၆) အရ ဦးသိန်းဇော်မင်း အမည်ဖြင့် လယ်ယာမြေ အား အခြားနည်းဖြင့် အသုံးပြုရန် ခွင့်ပြုမိန့် ပုံစံ-၁၅(က) ၊ ပုံစံ (၁၀၅) နှင့် မြေငှားဂရမ် စာချုပ် မိတ္တူတို့အား ပူးတွဲတင်ပြ ထားပါသည်။<br>(ဃ) ဖွဲ့ကပင် သဘာဝဟိုတယ် အမည်ဖြင့် ဟိုတယ် တည်ဆောက်ခွင့် ရရှိနိုင်ရန် ဟိုတယ်နှင့် ခရီးသွားညွှန်ကြားမှု ဦးစီးဌာန၊ ဘားအံရုံးခွဲမှ တဆင့် (၁၉-၉-၂၀၁၇)ရက်စွဲဖြင့် ဟိုတယ်နှင့် ခရီးသွားလာရေး ဝန်ကြီးဌာန၊ နေပြည်တော် သို့ ပေးပို့တင်ပြထားသည့် စာအားပူးတွဲတင်ပြ ထားပါသည်။<br>(ဃ) ငွေကြေးအထောက်အထားအဖြစ် Min Myat Gone Co., Ltd. သည် (၂၄-၁-၂၀၁၈) ရက်စွဲ အရ AYA Bank တွင် ဦးစောသိန်းဇော်မင်း၊ ဒေါ်နန်းယဉ်ယဉ်ထွေး အမည်ဖြင့် ကျပ် ၅၀၀,၀၁၆,၀၈၇.၇၃ ရှိကြောင်း တင်ပြထား ပါသည်။<br>(ဃ) Min Myat Gone Co., Ltd.သည် အဆောက်အဦ **Layout Plan** တို့ကို တင်ပြ ထားပါသည်။<br>(င) ဒါရိုက်တာစာရင်း၊ ဒါရိုက်တာ အဖွဲ့ဝင်များ၏ မှတ်ပုံတင် မိတ္တူများကို တင်ပြထားပါသည်။<br>(စ) မီးဘေးကြိုတင် ကာကွယ်ရေး စီမံချက်၊ လုပ်ငန်းခွင် သာယာရေးနှင့်ဝန်ထမ်းသက်သာ |

| | | |
|---|---|---|
| | | ချောင်ချိရေးစီမံချက်၊ အမျိုးသား ယဉ်ကျေးမှုကိုထိန်းသိမ်းမည် ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊ပတ်ဝန်းကျင် ထိန်းသိမ်းရေး လုပ်ငန်းများဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံကတိပြုစာတို့ကိုတင်ပြ ထားပါ သည်။ |
| ၁၈။ | **စိစစ်တင်ပြချက်** | (က) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ-၃၆ အရ အဆိုပြုလုပ်ငန်းသည် ကော်မရှင်၏ ခွင့်ပြုမိန့်ရယူ ဆောင်ရွက်ရမည့် စာရင်းတွင် ပါဝင်ခြင်း မရှိပါကြောင်း၊ အတည်ပြုမိန့်ဖြင့် ဆောင်ရွက်နိုင်ကြောင်း စိစစ်ရပါသည်။<br>(ခ) အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၀၁၇ ခုနှစ်၊ ဧပြီလ ၁ ရက်နေ့ပါ အမိန့်ကြော်ငြာ စာအမှတ် ၁၃/၂၀၁၇ အရ ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှု ကဏ္ဍစာရင်းတွင် ပါဝင်သည့်အတွက် **အခွန်ကင်းလွတ်ခွင့်၊ သက်သာခွင့်များ ခံစားနိုင်မည်ဖြစ်သဖြင့်** ကုမ္ပဏီမှ အခွန် ကင်းလွတ်ခွင့် သက်သာခွင့်များ လျှောက်ထား တင်ပြထားပါသည်။<br>(ဂ) ဖွံ့ဖြိုးတိုးတက်မှု ဇုန်-၁ တွင် ပါဝင်သည့်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် **၇ နှစ်** လျှောက်ထားနိုင်ပါ သည်။<br>(ဃ) အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ကော်မရှင်၏ ၂၀၁၇ ခုနှစ်၊ ဧပြီလ ၁၀ ရက်နေ့ပါ အမိန့်ကြော်ငြာစာအမှတ် ၁၅/၂၀၁၇ အရ နိုင်ငံတော်ကသာ ဆောင်ရွက်ခွင့် ရှိသည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်း စာရင်းတွင် ပါဝင် ခြင်း မရှိပါ ကြောင်း။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# ကရင်ပြည်နယ် ရင်းနှီးမြှုပ်နှံမှု ကော်မတီ

စာအမှတ်၊ ကရန / ရနမ /၂၀၁၈ ( ၀၀၆၂ )

ရက်စွဲ ၊ ၂၀၁၈ ခုနှစ် မေ လ ၁၆ ရက်

## ကရင်ပြည်နယ် ရင်းနှီးမြှုပ်နှံမှုကော်မတီ သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **Min Myat Gone Company Limited (မင်းမြတ်ဂုဏ် ကုမ္ပဏီ လီမိတက်) မှ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် အဆင့်မြင့် ဟိုတယ်တည်ဆောက်ပြီး ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ အတည်ပြုမိန့် ထုတ်ပေးပါရန် တင်ပြလာခြင်း ကိစ္စ**

၁။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် Min Myat Gone Company Limited (မင်းမြတ်ဂုဏ် ကုမ္ပဏီ လီမိတက်) တည်ထောင်ကာ ဦးပိုင်အမှတ် (N-၇၈)၊ ကွင်းအမှတ် (၁၁၈၆)၊ ကမော့ကစင် အရှေ့ကွင်း၊ ရဲသာကျေးရွာအုပ်စု၊ ဘားအံမြို့၊ ကရင်ပြည်နယ်ရှိ မြေဧရိယာ စုစုပေါင်း ၃.၁၀ ဧကတွင် ဖွဲ့ကပင် သဘာဝဟိုတယ် အမည်ဖြင့် အဆင့်မြင့် ဟိုတယ် တည်ဆောက်ပြီး ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကရင်ပြည်နယ် ရင်းနှီးမြှုပ်နှံမှု ကော်မတီ သို့ အတည်ပြု လျှောက်ထားလွှာ တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေအထောက်အထားအဖြစ် ကရင်ပြည်နယ်အစိုးရ အဖွဲ့၏ ၁၁-၂-၂၀၁၆ ရက်နေ့ အစည်းအဝေး အမှတ်စဉ် (၆/၂၀၁၆) ဆုံးဖြတ်ချက် အမှတ် (၆) အရ ဦးသိန်းဇော်မင်း အမည်ဖြင့် လယ်ယာမြေအား အခြားနည်းဖြင့် အသုံးပြုရန် ခွင့်ပြုမိန့် ပုံစံ-၁၅(က)၊ မြေစာရင်း ပုံစံ-၁၀၅ နှင့် မြေပြဇယားကွက် စာချုပ်မိတ္တူတို့အား ပူးတွဲ တင်ပြထားပါသည်။

၃။ အဆိုပြုလုပ်ငန်း၏ တည်ဆောက်ရေး ကာလမှာ-၁ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြ ထားပါသည်။

၄။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ ကျပ် ၄၅၀၀.၀၀ သန်း ဖြစ်ပါသည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | စုစုပေါင်း (ကျပ်/သန်း) | စုစုပေါင်း (US$ ) |
|---|---|---|
| ငွေသား | ၄၈၉,၈၁၅,၂၀၀ | - |
| မြေတန်ဖိုး | ၅၀၀,၀၀၀,၀၀၀ | - |
| အဆောက်အဦး/ပရိဘောဂ | ၃,၀၀၀,၀၀၀,၀၀၀ | - |
| စက်ပစ္စည်း | ၈၀,၀၀၀,၀၀၀ | ၁၀၇,၀၀၀ |
| ဟိုတယ်သုံးပစ္စည်း | ၂၈၅,၇၃၄,၈၀၀ | - |
| **စုစုပေါင်း** | **၄,၃၅၅,၅၅၀,၀၀၀** | **၁၀၇,၀၀၀** |

၅။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၁၈၂ ဦး ခန့်ထားမည်ဖြစ်ပြီး ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၄၄,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၆၀၀,၀၀၀ ဖြစ်ပါသည်။

၆။ လုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားမှတ်ချက် တောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထား ပြန်ကြားခဲ့ပါသည်-

(က) ကရင်ပြည်နယ် အစိုးရအဖွဲ့ အနေဖြင့် ကန့်ကွက်ရန် မရှိကြောင်း သဘောထား ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-က**

(ခ) ပြည်နယ် ဟိုတယ်နှင့် ခရီးသွား ညွှန်ကြားမှု ဦးစီးဌာနမှ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ဟိုတယ်နှင့် ခရီးသွားလာရေး ဝန်ကြီးဌာနမှ ထုတ်ပြန်ထားသော မြန်မာနိုင်ငံဟိုတယ်နှင့် ခရီးသွားလာရေးဥပဒေ (၁၉၉၃) နှင့် ဟိုတယ်နှင့် တည်းခိုရိပ်သာ လုပ်ငန်းလိုင်စင်ဆိုင်ရာ အမိန့် (၂၀၁၁) များပါ ပြဋ္ဌာန်းချက်များနှင့် အညီ လိုက်နာဆောင်ရွက်သွားရန် နှင့် ကန့်ကွက်ရန်မရှိကြောင်း သဘောထား ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ခ**

(ဂ) ပြည်နယ် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာနမှ ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ကိုရေးဆွဲ တင်ပြရမည် ဖြစ်ကြောင်း သဘောထား ပြန်ကြားလာပါသည်။ **နောက်ဆက်တွဲ-ဂ**

(ဃ) ပြည်နယ်စည်ပင်သာယာရေးအဖွဲ့မှ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ဘားအံမြို့နယ် စည်ပင်သာယာရေး အဖွဲ့မှ အောက်ပါအတိုင်း သဘောထားပြန်ကြားခဲ့ပါသည်-

(၁)အဆောက်အအုံဆောက်လုပ်ခြင်းဆိုင်ရာ နည်းဥပဒေအခန်း(၆)၊ ပုဒ်မ(၅၀)၊ ပုဒ်မခွဲ(ဂ)အရ အဆောက်အအုံ စည်းကြပ်ခွန်အဖြစ် တန်ဘိုးငွေ၏ (၀.၅%)အား ပေးသွင်းရန်။

(၂)အဆောက်အဦ ဆောက်လုပ်ခွင့် ခွင့်ပြုမိန့် တောင်းခံသွားရန် နှင့် ကန့်ကွက်ရန်မရှိကြောင်းသဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ဃ**

၈။ ငွေကြေးအထောက်အထားအဖြစ် Min Myat Gone Company Limited အမည်ဖြင့် ရောဝတီဘဏ်တွင် ၂၄-၁-၂၀၁၈ ရက်စွဲဖြင့် ကျပ် ၅၀၀, ၀၁၆, ၀၈၇.၇၃ ရှိကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၉။ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ-၃၆ အရ အဆိုပြုလုပ်ငန်းသည် ကော်မရှင်၏ ခွင့်ပြုမိန့်ရယူ ဆောင်ရွက်ရမည့် စာရင်းတွင် ပါဝင်ခြင်း မရှိပါကြောင်း၊ အတည်ပြုမိန့်ဖြင့် ဆောင်ရွက်နိုင် ကြောင်းစိစစ်ရပါသည်။

(ခ) အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၀၁၇ ခုနှစ်၊ ဧပြီလ ၁ ရက်နေ့ပါ အမိန့်ကြော်ငြာ စာအမှတ် (၁၃/ ၂၀၁၇) အရ ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍစာရင်းတွင် ပါဝင်သည့်အတွက် **အခွန်ကင်းလွတ်ခွင့်၊ သက်သာခွင့်များခံစားနိုင်မည်ဖြစ်သဖြင့်** ကုမ္ပဏီမှ အခွန်ကင်းလွတ်ခွင့် သက်သာခွင့်များ လျှောက်ထား တင်ပြထားပါသည်။

(ဂ) ဖွံ့ဖြိုးတိုးတက်မှု ဇုန်-၁ တွင် ပါဝင်သည့်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် **၇ နှစ်** လျှောက်ထားနိုင်ပါသည်။

(ဃ) အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၀၁၇ ခုနှစ်၊ ဧပြီလ ၁၀ ရက်နေ့ပါ အမိန့်ကြော်ငြာ စာအမှတ် ၁၅/၂၀၁၇ အရ နိုင်ငံတော်ကသာ ဆောင်ရွက်ခွင့်ရှိသည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်း စာရင်းတွင် ပါဝင်ခြင်း မရှိပါ ကြောင်း။

(စ) စက်ရုံ၌ အလုပ်သမားများနှင့် ဒေသခံပြည်သူများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေးကြိုတင် ကာကွယ်ရေး စီမံချက်နှင့် Corporate Social Responsibility (CSR) အစီ အစဉ်များကိုလည်း တင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၀။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် Min Myat Gone Company Limited (မင်းမြတ်ဂုဏ် ကုမ္ပဏီ လီမိတက်) မှ ဖွဲ့ကပင် သဘာဝဟိုတယ် အမည်ဖြင့် အဆင့်မြင့် ဟိုတယ်တည်ဆောက် လုပ်ကိုင်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြု လွှာ တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ အတည်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(နိုင်ဝင်းတိုး ၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ (က)

လျှို့ဝှက်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# ပြည်နယ်အစိုးရအဖွဲ့ရုံး
# ကရင်ပြည်နယ်

စာအမှတ်၊ ၂၀၀ / ၇ - ၁၆ / ဦး ၆(၃၄၁၀)

ရက် စွဲ ၊ ၂၀၁၈ ခုနှစ်၊ မေလ ၂၂ ရက်

သို့

အတွင်းရေးမှူး
ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
ဘားအံမြို့

KYNIC - 40
14/5/2018

အကြောင်းအရာ ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၇-၅-၂၀၁၈)ရက်စွဲပါစာအမှတ်၊ ကရန / ရနမ / ၂၀၁၈ (၀၀၄၅)

Min Myat Gone Co,Ltd မှ ကရင်ပြည်နယ်၊ ဘားအံမြို့၊ ရဲသာကျေးရွာအုပ်စု၊ ကမော့ကစင်အရှေ့ကွင်း၊ ကွင်းအမှတ်(၁၁၈၆)၊ ဦးပိုင်အမှတ်(N-၇၈)ရှိ မြေဧရိယာ(၃.၁၀)ဧကတွင် ဖွဲ့ကပင်သဘာဝဟိုတယ်အမည်ဖြင့် အဆင့်မြင့်ဟိုတယ်တည်ဆောက်ပြီး ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းချက်ပါစာဖြင့် တင်ပြလာသည့်ကိစ္စနှင့်ပတ်သက်၍ (၉-၅-၂၀၁၈)ရက်နေ့တွင်ကျင်းပပြုလုပ်သော ကရင်ပြည်နယ်အစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ်(၁၉/၂၀၁၈) ဆုံးဖြတ်ချက် အပိုဒ်(၃)အရ **သဘောတူကြောင်း** အကြောင်းကြားပါသည်။

22/5/2018

ပြည်နယ်ဝန်ကြီးချုပ်(ကိုယ်စား)
(ခင်မောင်ဆန်း၊ အတွင်းရေးမှူး)

မိတ္တူကို

ပြည်နယ်စီမံကိန်း၊ ဘဏ္ဍာရေးနှင့်စည်ပင်သာယာရေးဝန်ကြီးဌာန၊ ဘားအံမြို့
မျှော / လက်ခံ

လျှို့ဝှက်

နောက်ဆက်တွဲ (ခ)

ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန
ဘားအံရုံးခွဲ

စာအမှတ်၊က-ဘအ/၂၀၁၈( ၂၆၂ )
ရက်စွဲ၊၂၀၁၈ခုနှစ်၊ မေ လ ( ၈ ) ရက်

သို့

ဥက္ကဋ္ဌ
ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
ဘားအံမြို့

အကြောင်းအရာ။ **ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအပေါ်သဘောထားပြန်ကြားပေးပါရန်ကိစ္စ**

ရည်ညွှန်းချက် ။ ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏(၇-၅-၂၀၁၈)ရက်စွဲပါစာအမှတ်၊ ကရန/ရနမ/၂၀၁၈(၀၀၄၇)

၁။ ရည်ညွှန်းပါစာဖြင့် Min Myat Gone Co.,Ltd မှ ဦးပိုင်အမှတ်(N-၇၈)၊ ကွင်းအမှတ်(၁၁၈၆)၊ ကမော့ကစင်အရှေ့ကွင်း၊ ရဲသာကျေးရွာအုပ်စု၊ ဘားအံမြို့၊ ကရင်ပြည်နယ်ရှိ မြေဧရိယာစုစုပေါင်း(၃.၁၀)ဧကတွင် ဇွဲကပင်သဘာဝဟိုတယ်အမည်ဖြင့် အဆင့်မြင့်ဟိုတယ်တည်ဆောက်ပြီး ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းများကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် ဆောင်ရွက်ခွင့်ပြုပါရန် ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ တင်ပြလျှောက်ထားမှုအပေါ် အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်အား စာလက်ခံရရှိသည့်နေ့မှ (၅)ရက်အတွင်း သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ညွှန်ကြားလာပါသည်။

၂။ အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ ရည်ညွှန်းပါစာဖြင့် သဘောထားမှတ်ချက် ပြန်ကြားပေးရမည့်အချက်(၄)ချက်အားအောက်ပါအတိုင်း ပြန်ကြားပါသည်-

(က) အဆိုပါရင်းနှီးမြှုပ်နှံမှုလုပ်ငန်းထောင်မည့် ကုမ္ပဏီ၏ မန်နေဂျင်း ဒါရိုက်တာ ဒေါ်ယဉ်ယဉ်ထွေးမှ ဇွဲကပင်သဘာဝဟိုတယ်သည် တည်ဆောက်ရေးလုပ်ငန်းများ (၁၀၀%) ပြီးစီးပါ၍ လုပ်ငန်းလိုင်စင်ရရှိရေးအတွက် (၅-၅-၂၀၁၈) ရက်နေ့တွင် ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန၊ ဘားအံရုံးခွဲသို့ တင်ပြလျှောက်ထားလာပါသည်။ အဆိုပါ ဇွဲကပင်သဘာဝဟိုတယ်သည် လျှောက်ထားသူ၏ ခင်ပွန်းဖြစ်သူ ဦးသိန်းဇော်မင်း (၃/ဘအန(နိုင်)၁၈၄၀၉၈)မှ ဟိုတယ်တည်ဆောက်ခွင့်ရရှိရေး လုပ်ထုံးလုပ်နည်းနှင့်အညီ ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာနသို့ တင်ပြလျှောက်ထားခဲ့ရာ ဝန်ကြီးရုံး၏(၁၄-၁၂-၂၀၁၇)ရက်စွဲပါစာအမှတ်၊၁၈-ဂ(အုပ်ချုပ်မှု)/နပတ/၂၆၀၇ ဖြင့် ဟိုတယ်တည်ဆောက်ခွင့်ရရှိထားပြီးဖြစ်ပါသည်။ ဟိုတယ်တည်

ဆောက်ခွင့်ရရှိသူ ဦးသိန်းဇော်မင်းမှ ၄င်း၏ဇနီးဖြစ်သူ ဒေါ်ယဉ်ယဉ်ထွေး (မှတ်ပုံတင်အမှတ်၊ ၃/ဘအန(နိုင်)၁၆၃၇၉၇)သို့ ဟိုတယ်တည်ဆောက်ခြင်းလုပ်ငန်းလိုင်စင်လျှောက်ထားခြင်းများအတွက် တရားရုံးကျမ်းကျိန်လွှာဖြင့် လွှဲပြောင်းပေးထားပါသည်။ ဟိုတယ်လုပ်ငန်းလိုင်စင်ရရှိရေး လုပ်ထုံးလုပ်နည်းနှင့်အညီ ဆောင်ရွက်လျှက်ရှိပါသည်။

(ခ) ဟိုတယ်လုပ်ငန်းသုံးပစ္စည်းများမှာ ပြည်တွင်းမှဝယ်ယူသုံးစွဲထားပြီး ဟိုတယ်အတွက် သင့်တော်မှုရှိ/မရှိ စစ်ဆေးဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(ဂ) ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းဆောင်ရွက်မည့် ကုမ္ပဏီအနေဖြင့် ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာနမှ ထုတ်ပြန်ထားသော မြန်မာနိုင်ငံ ဟိုတယ်နှင့်ခရီးသွားလာရေးဥပဒေ (၁၉၉၃)နှင့် ဟိုတယ်နှင့်တည်းခိုရိပ်သာလုပ်ငန်းလိုင်စင်ဆိုင်ရာအမိန့်(၂၀၁၁)များပါ ပြဋ္ဌာန်းချက်များနှင့်အညီ လိုက်နာဆောင်ရွက်သွားရန် ဝန်ခံချက်များ ရယူဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(ဃ) အဆိုပါလုပ်ငန်းနှင့်ပတ်သက်၍ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားပါသည်။

8/5/18

(အေးမောင်လှိုင်)
ဒုတိယညွှန်ကြားရေးမှူး

မိတ္တူကို-

- ပြည်နယ်ဝန်ကြီး၊စီမံကိန်း၊ဘဏ္ဍာရေးနှင့်စည်ပင်သာယာရေးဝန်ကြီးဌာန၊ဘားအံမြို့။
- ညွှန်ကြားရေးမှူး၊ ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ဘားအံမြို့။
- ရုံးလက်ခံ

ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးရုံး
ကရင်ပြည်နယ်၊ ဘားအံမြို့
စာအမှတ်၊ ၄၂၅/ကရ-(EIA)/ ၂၀၁၈
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ မေလ ၁၁ ရက်

NIC-36
4/5/2018

သို့

ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
ကရင်ပြည်နယ်၊ ဘားအံမြို့

အကြောင်းအရာ။ **Min Myat Gone Co.,Ltd.၏ ဖွဲ့ကပင် သဘာဝဟိုတယ် အမည်ဖြင့် အဆင်မြင့် ဟိုတယ်တည်ဆောက်ခြင်းနှင့် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် အကြောင်းကြားလာခြင်းနှင့် ပက်သက်၍ သဘောထား မှတ်ချက်ပြန်ကြားခြင်း**

ရည်ညွှန်းချက်။ ကရင်ပြည်နယ်၊ ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ ၇-၅-၂၀၁၈ ရက်စွဲပါစာအမှတ်၊ ကရန/ ရမန/ ၂၀၁၈(၁၁၄၆)

၁။ Min Myat Gone Co.,Ltd.မှ ကရင်ပြည်နယ်၊ ဘားအံမြို့၊ ဦးပိုင်အမှတ် (N-၇၈)၊ ကွင်းအမှတ် (၁၁၈၆)၊ ကမော့ကစင်အရှေ့ကွင်း၊ ရဲသာကျေးရွာအုပ်စု၊ စုစုပေါင်းမြေဧရိယာ (၃.၁၀) ဧကတွင် အဆင့်မြင့်ဟိုတယ်တည်ဆောက်ခြင်းနှင့် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ကိစ္စနှင့် စပ်လျဉ်း၍စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အတည်ပြုလျှောက်လွှာအား စိစစ်ရာတွင် အောက်ပါအချက်များ လေ့လာတွေ့ရှိရပါသည်။

(က) တည်ဆောက်မှုကာလ/ပြင်ဆင်မှုကာလမှာ (၁) နှစ်ဖြစ်ကြောင်း၊

(ခ) စီးပွားဖြစ်စတင်ဆောင်ရွက်မည့်နှစ်မှာ ၂၀၁၉ ဖြစ်ကြောင်း၊

(ဂ) အဆိုပြုအဆောက်အဦတွင် အိပ်ခန်းပေါင်း(၂၀)ခန်းပါ Main Hotel (၁)လုံး၊ အိပ်ခန်းပေါင်း(၁၂)ခန်းပါ V.I.P Guest House (၁) လုံး၊ အိပ်ခန်းပေါင်း(၁၀)ခန်းပါ ၂ခန်းတွဲ Bangalore (၅)လုံး၊ အိပ်ခန်းပေါင်း(၈)ခန်းပါ ၄ခန်းတွဲ(၂) ထပ်လုံးခြင်း (၂)လုံး၊ စုစုပေါင်းအိပ်ခန်း(၅၀) ခန်းနှင့် လူ(၅၀၀)ဆန့် ခန်းမအဆောက်အဦ (၁)လုံး၊ တို့ပါရှိပါကြောင်း၊

(ဃ) လုပ်ငန်းမှနှစ်စဉ်အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာ တာဝန်ယူဆောင်ရွက်မှု (Corporate Social Responsibility-CSR) ရန်ပုံငွေအဖြစ်ထားရှိ သုံးစွဲသွားမည် ဖြစ်ကြောင်း ၊

(င) မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်နှင့် အမျိုးသားယဉ်ကျေးမှုကို ထိန်းသိမ်းသွားမည်ဖြစ်ကြောင်း၊

(စ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ ထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်း၊ စည်းကမ်းများကို လိုက်နာဆောင်ရွက်သွားမည် ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ် ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) Min Myat Gone Co.,Ltd.မှ အဆင့်မြင့် ဟိုတယ်တည်ဆောက်၍ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်ရာတွင် အဆောက်အဦများ ဆောက်လုပ်ရန်အတွက် မြေတူးခြင်း၊ မြေသားပြုပြင်ဖော်ထုတ်ခြင်း၊ လုပ်ငန်းများမှထွက်ရှိလာမည့် မြေသားအမှုန်အမွှားများနှင့် ဖုန်မှုန့်များကြောင့် လေထုညစ်ညမ်းခြင်း၊

(ခ) တည်ဆောက်ရေးလုပ်ငန်းသုံး ယာဉ်ယန္တယားများနှင့် စက်ပစ္စည်းများမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ရှိ မြေထု၊ ရေထုနှင့်လေထုညစ်ညမ်းခြင်း၊

(ဂ) အလုပ်သမားများ၏ စွန့်ပစ်ပစ္စည်းများနှင့် မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊

(ဃ) ဟိုတယ်လုပ်ငန်းလည်ပတ်ချိန်၌ ဟိုတယ်အခန်းများမှ ထွက်ရှိလာမည့် စွန့်ပစ်ရေဆိုး၊ မိလ္လာရေဆိုးများအား စနစ်တကျစွန့်ပစ်ခြင်းမပြုဘဲ တိုက်ရိုက်စွန့်ပစ်ပါက ရေထုညစ်ညမ်းနိုင်ခြင်း၊ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းများဖြစ်သည့် စားသောက်ခန်း၊ ဘားခန်း၊ မီးဖိုဆောင်မှ ထွက်ရှိလာမည့် အစားအသောက်အညစ်အကြေးများ၊ ပတ်ဝန်းကျင်တွင် ဆွေးမြေ့ရန်အချိန်ကြာမြင့်သည့် ပလတ်စတစ်နှင့် ကြွပ်ကြွပ်အိတ်ကဲ့သို့အမှိုက်များကို စနစ်တကျမစွန့်ပစ်ခြင်းကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုများ ဖြစ်ပေါ်နိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှု ပြဿနာများ ဖြစ်ပေါ်လာစေနိုင်ခြင်း၊

(င) လုပ်ငန်းဆောင်ရွက်မည့် အဆောက်အဦအနေဖြင့် ကရင်ပြည်နယ်၊ ဘားအံမြို့၏အထင်ကရပုံရိပ်ဖြစ်သော ဇွဲကပင်တောင်ခြေရင်းတွင် တည်ဆောက်မည်ဖြစ်သောကြောင့် သဘာဝဂေဟစနစ် ပျက်ယွင်းပျက်စီးမှု ဖြစ်ပေါ်လာစေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Min Myat Gone Co.,Ltd.မှ အဆင့်မြင့်ဟိုတယ်တည်ဆောက်၍ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်း ရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

(က) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်

အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက်နှစ်စဉ်အမြတ်ငွေ၏ ( ၂%) ကို ရန်ပုံငွေအဖြစ် အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကိုတိတိကျကျ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊

(ခ) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရန် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်းများ စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ ပါဝင်သည့်ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ကို ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက် များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါ အတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဂ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်၊

(ဃ) ပြည်နယ်အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင်နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများကိုလည်းရယူဆောင်ရွက်ရန် ။

ပြည်နယ်တာဝန်ခံ
(ကြည်သာလှိုင်၊ လက်ထောက်ညွှန်ကြားရေးမှူး)

မိတ္တူကို

ဝန်ကြီး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး၊သစ်တော၊သတ္တုနှင့် လမ်းပန်းဆက်သွယ်ရေးဝန်ကြီးဌာန၊ ကရင်ပြည်နယ်
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ နေပြည်တော်
ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ (ဃ)

ပြည် နယ် စည် ပင် သာ ယာ ရေး အ ဖွဲ့
က ရင် ပြည် နယ် - ဘား အံ မြို့
စာအမှတ်၊ ၁၀၆၇/၈-၄၁/က ရစ (၀၃၀)
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ မေလ ၁၄ ရက်

(တံဆိပ်) ပြည်နယ်စည်ပင်သာယာရေးအဖွဲ့ ရုံးတံဆိပ် ကရင်ပြည်နယ်၊ ဘားအံမြို့

သို့

ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
သုဓနလမ်းပြည်နယ်အစိုးရအဖွဲ့ရုံး
ဘားအံမြို့

KYNIC-41
14/5/2018

အကြောင်းအရာ။ **ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအပေါ် သဘောထားပြန်ကြားပေးပါရန်ကိစ္စ**

ရည်ညွှန်းချက်။ ကရင်ပြည်နယ်၊ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ ၇-၅-၂၀၁၈ရက်စွဲပါစာအမှတ်၊ ကရန / ရနမ / ၂၀၁၈(၀၀၄၈)

Mim Myat Gone Co,Ltd မှဦးပိုင်အမှတ် (N-၇၈)၊ကွင်းအမှတ်(၁၁၈၆)၊ ကမော့ကစင် အရှေ့ကွင်း၊ ရဲသာကျေးရွာအုပ်စု၊ ဘားအံမြို့၊ကရင်ပြည်နယ်ရှိ မြေဧရိယာစုစုပေါင်း (၃.၁၀)ဧကတွင်၊ ဖွဲ့ကပင် သဘာဝဟိုတယ်အမည်ဖြင့် အဆင့်မြင့်ဟိုတယ်တည်ဆောက်မှုနှင့်ပတ်သတ်၍ အောက်ပါသဘောထားမှတ်ချက် အားပြန်ကြားပါသည် -

(က) အဆောက်အအုံဆောက်လုပ်ခြင်းဆိုင်ရာ နည်းဥပဒေအခန်း(၆)ပုဒ်မ (၅၀) ပုဒ်မခွဲ(ဂ) အရ အဆောက်အအုံ
စည်းကြပ်ခွန်အဖြစ် တန်ဘိုးငွေ၏(၀.၅%)အား ပေးသွင်းရမည်ဖြစ်ခြင်း

(ခ) အဆိုပါကုမ္ပဏီသည် အဆောက်အဦဆောက်လုပ်ခွင့်ပြုမိန့်အား ဘားအံမြို့နယ်စည်ပင် သာယာရေးအဖွဲ့သို့ လျှောက်ထားရန်လိုအပ်ခြင်း

(ဂ) အဆိုပြုလုပ်ငန်းအား သဘောတူခြင်း

14/5

ညွှန်ကြားရေးမှူး
(စိုးမြင့်၊ ကရစ -၀၀၀၁)

မိတ္တူကို

ဝန်ကြီး၊စီမံကိန်း၊ဘဏ္ဍာရေးနှင့်စည်ပင်သာယာရေးဝန်ကြီးဌာန၊ဘားအံမြို့
အမှုဆောင်အရာရှိ၊မြို့နယ်စည်ပင်သာယာရေးအဖွဲ့၊ဘားအံမြို့
Mim Myat Gone Co,Ltd
ရုံးလက်ခံ
မျှောစာတွဲ

## Min Myat Gone Co., Ltd. (မင်းမြတ်ဂုဏ် ကုမ္ပဏီ လီမိတက်) ၏ ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | Min Myat Gone Co., Ltd. (မင်းမြတ်ဂုဏ် ကုမ္ပဏီ လီမိတက်) | (1)Daw Nan Yin Yin Htwe<br>Managing Director<br>Myanmar<br>3/ Ba Ah Na (N)163979 | No.(4/A)1096, No. (4) Quarter, Man Aye Myaing Steet & Myittar Street, Hpa-An Township, Kayin State. |
| | | (2)U Saw Thein Zaw Min<br>Director<br>Myanmar<br>3/ Ba Ah Na (N)184098 | No.(4/A)1096, No. (4) Quarter, Man Aye Myaing Steet & Myittar Street, Hpa-An Township, Kayin State. |
| | | (3)U Thant Zin Soe<br>Director<br>Myanmar<br>12/ Pa Za Ta (N)007166 | No.(9) Quarter, Pa Oh Community, Hpa-An Township, Kayin State. |

| | | | |
|---|---|---|---|
| ၁။ | ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် | - | ၀၉-၄၉၂၉၈၅၇၃၊ ၀၉-၅၆၆၁၀၄၅၊ ၀၉-၇၇၇၇၁၇၅၅၅ |
| ၂။ | ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ | - | အမှတ်(၄/က) ၁၀၉၆၊ အမှတ်(၄)ရပ်ကွက်၊ မန်းအေးမြိုင်လမ်းနှင့် မေတ္တာလမ်း၊ ဘားအံမြို့၊ ကရင်ပြည်နယ်။ |
| ၃။ | ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး | - | ဒေါ်နန်းယဉ်ယဉ်ထွေး |
| ၄။ | ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ | - | ဇွဲကပင် သဘာဝဟိုတယ် အမည်ဖြင့် အဆင့်မြင့် ဟိုတယ် တည်ဆောက် လုပ်ကိုင်ခြင်း လုပ်ငန်း |
| ၅။ | ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ | - | ၉/၂၀၁၆-၂၀၁၇ |
| ၆။ | ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ | - | ၁၇-၁-၂၀၂၂ |
| ၇။ | ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် | - | ရှေ့ာဝတီဘဏ် (၀၁၄၈၁၀၂၀၁၀၀၀၀၈၂၂) |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း

မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန်ရင်းနှီးမြှုပ်နှံလိုသူ၏

အဆိုပြုချက်

# မင်းမြတ်ဂုဏ်ကုမ္ပဏီလီမိတက်

---

## ညှော့သည်(၅၀၀) ဆန့်ညှော့ခန်းမ

## နှင့်

## အခန်း(၅၀)ပါအဆင့်မြင့်ဟိုတယ်လုပ်ငန်း

ကမော့ကစင်ကျေးရွာ၊ ရဲသာကျေးရွာအုပ်စု၊

ဘားအံမြို့နယ်၊ ကရင်ပြည်နယ်။

# Min Myat Gone Co., Ltd.

## မာတိကာ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

## ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန

ဝန်ကြီးရုံး

စာအမှတ်၊ ၁၈-၇(အုပ်ချုပ်မှု)/နပတ/ ၂၆၀၇

ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဒီဇင်ဘာ လ ၁၄ ရက်။

အကြောင်းအရာ။ **ဟိုတယ် ဆောက်လုပ်ခွင့် ပြုပါရန်တင်ပြလာခြင်းကိစ္စ**

၁။ ကရင်ပြည်နယ်၊ ဘားအံမြို့၊ ရဲသာကျေးရွာအုပ်စု၊ ကမော့ကစင် ကျေးရွာအနီး၊ ကွင်းအမှတ် (၁၁၈၆)၊ ဦးပိုင်အမှတ် (၂၉၃/၁)၊ (၂၉၃/၂)၊ (၂၉၆)၊ (၂၉၇) နှင့် (N / ၇၈) ရှိ မြေပေါ်တွင် (၃) ထပ်၊ ပင်မအဆောက်အဦ (၁) လုံး အိပ်ခန်း (၂၀) ခန်း၊ (၂) ခန်းတွဲ ဘန်ဂလို (၅) လုံး အိပ်ခန်း (၁၀)ခန်း၊ (၄) ခန်းတွဲ (၂) ထပ်လုံးချင်း (၂) လုံး အိပ်ခန်း(၈)ခန်းနှင့် (၃)ထပ် VIP အဆောင် အိပ်ခန်း (၁၂) ခန်း၊ စုစုပေါင်း အိပ်ခန်း (၅၀) ခန်းပါ ဟိုတယ် ဆောက်လုပ်ခွင့်ပြုပါရန် လုပ်ငန်းရှင် ဦးသိန်းဇော်မင်း (၃/ဘအန (နိုင်) ၁၈၄၀၉၈) မှ တင်ပြလာခဲ့ပါသည်။

၂။ အဆိုပါ တင်ပြချက်အား (၂၇-၁၁-၂၀၁၇) ရက်နေ့တွင် ကျင်းပပြုလုပ်သော ဟိုတယ်နှင့် ခရီးသွားလာရေး ဝန်ကြီးဌာန၏ စီမံခန့်ခွဲမှုကော်မတီ အစည်းအဝေး အမှတ်စဉ် (၂၁/၂၀၁၇) ၌ ထည့်သွင်းဆွေးနွေး၍ ဟိုတယ်ဆောက်လုပ်ခွင့်အား သဘောတူခွင့်ပြုခဲ့ပါသည်။

၃။ ဟိုတယ် ဆောက်လုပ်ခြင်းအား သက်ဆိုင်ရာဌာနများသို့ လုပ်ထုံးလုပ် နည်းနှင့်အညီ ဆက်လက် တင်ပြခွင့်ပြုချက်များ ရယူဆောင်ရွက်သွားရန်၊ မြန်မာနိုင်ငံ ဟိုတယ်နှင့် ခရီးသွား လာရေး ဥပဒေ (၁၉၉၃) နှင့် ဟိုတယ်နှင့် တည်းခိုရိပ်သာ လုပ်ငန်းလိုင်စင် ဆိုင်ရာအမိန့် (၂၀၁၁) များပါ ပြဋ္ဌာန်းချက်များနှင့်အညီ ဆောင်ရွက်သွားရန် လိုအပ်ပါကြောင်း၊ ဝန်ထမ်းများ အားလုံး မီးငြိမ်းသတ်နိုင်ရေးအတွက် မီးငြိမ်းသတ်မှု ဇာတ်တိုက်လေ့ကျင့်ခြင်း၊ မီးသတ်ဆေးဗူး၊ မီးသတ် ကိရိယာ များအသုံးပြုတတ်ရေး လေ့ကျင့်သင်ကြားပေးသွားရန်နှင့် ဟိုတယ် ဆောက်လုပ်ပြီးစီးပါက ဟိုတယ် လုပ်ငန်းလိုင်စင် ရရှိရေးအတွက် သတ်မှတ်ပြဋ္ဌာန်းချက်များနှင့်အညီ ဆက်လက်ဆောင်ရွက်သွားရန် လိုအပ်ကြောင်း အကြောင်းကြားပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ရည်မွန်၊အမြဲတမ်းအတွင်းဝန်)

ဦးသိန်းဇော်မင်း (၃/ဘအန (နိုင်) ၁၈၄၀၉၈)
ကရင်ပြည်နယ်၊ ဘားအံမြို့၊ ရဲသာကျေးရွာအုပ်စု၊
ကမော့ကစင်ကျေးရွာအနီး၊ ကွင်းအမှတ် (၁၁၈၆)၊
ဦးပိုင်အမှတ် (၂၉၃/၁)၊ (၂၉၃/၂)၊ (၂၉၆)၊ (၂၉၇) နှင့် (N / ၇၈)

C1,H H Word,Hotel EC ,Hotel Parmite LHr1

မိတ္တူကို

ကရင်ပြည်နယ်အစိုးရအဖွဲ့ (ကရင်ပြည်နယ်အစိုးရအဖွဲ့၏၁၈-၄-၂၀၁၇ ရက်စွဲ ပါစာအမှတ်၊ ၂၀၀ /၇ - ၂၆ /ဦး ၆ (၂၂၃၇) အားရည်ညွှန်းပေးပို့ပါသည်)

ညွှန်ကြားရေးမှူးချုပ်၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန

ဒုတိယညွှန်ကြားရေးမှူး၊ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန (ဘားအံရုံးခွဲ)

(လုပ်ငန်းရှင်မှ ဟိုတယ်တည်ဆောက်မှုကို ခွင့်ပြုမိန့်ရပြီးအချိန်မှစ၍ မူလအဆိုပြုချက် နှင့် အညီအမှန်တကယ် ဆောက်လုပ်မှု အခြေအနေကို စဉ်ဆက်မပြတ် စစ်ဆေးကြီးကြပ်တင်ပြပေးသွားပါရန်)

ရုံးလက်ခံ/မျှော

MIN MYAT GONE
development Co.,Ltd

- Near Mt .Zwe Kabin & Lone Ma Taung , Zwe Kabin Natural Hotel & Resort, Hpa-an & Zwe Kabin Main Road ,Hpa-An, Kayin State, Myanmar .
- Mobile : +95 9 777717555, +95 9 5661045
- Office: +95 9 780883888
- Email : minmyatgonemmg@gmail.com

သို့

ဥက္ကဋ္ဌ
ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

ရက်စွဲ ။ ။ ၂၀၁၈ ခုနှစ် ဧပြီလ (၃) ရက်၊

အကြောင်းအရာ ။ ။ <u>အတည်ပြုလျှောက်ထားလွှာပေးပို့ခြင်း။</u>

အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ကျွန်မတို့၏မင်းမြတ်ဂုဏ် ကုမ္ပဏီလီမိတက် (Min Myat Gone Company Limited) သည်ကရင်ပြည်နယ်၊ ဘားအံမြို့နယ်၊ ရဲသာကျေးရွာအုပ်စု၊ ကမော့ကစင်ကျေးရွာ၊ ကွင်းအမှတ် (၁၁၈၆)၊ ဦးပိုင်အမှတ် (N၇၈) တွင်တည်ရှိသည့်မြေ (၃.၁၀) ဧက တွင်အဆင့်မြင့်ဟိုတယ်တည်ဆောက်ပြီး ဟိုတယ်လုပ်ငန်း ကိုဆောင်ရွက်မည် ဖြစ်ပါသည်။

အဆိုပြုလုပ်ငန်းကိုရင်းနှီးမြှုပ်နှံမှု ကျပ်သန်း (၄၅၀၀.၀၀) ရင်းနှီးမြှုပ်နှံဆောင်ရွက်သွားမည်ဖြစ်ပါသည်၊ ထိုသို့ဆောင်ရွက်ရာတွင်ငွေသားကျပ် (၄၈၉.၈၂) သန်း၊ စက်ပစ္စည်းအမေရိကန်ဒေါ်လာ (၀.၁၀၇) သန်းအပါအဝင်ကျပ် (၂၂၄.၄၅) သန်း၊ အဆောက်အဦ တန်ဖိုးကျပ် (၃၀၀၀.၀၀) သန်း၊ ဟိုတယ်လုပ်ငန်းသုံးပစ္စည်းတန်ဖိုးကျပ် (၂၈၅.၇၃) သန်းနှင့်မြေတန်ဖိုး ကျပ် (၅၀၀.၀၀) သန်းကိုထည့်ဝင်ရင်းနှီးမြှုပ်နှံ သွားမည်ဖြစ်ပါသည်၊

ကျွန်တော်များကုမ္ပဏီသည် အဆိုပြုလုပ်ငန်းဆောင်ရွက်ခွင့်ရရှိပါက လူ့စွမ်းအားအရင်းအမြစ်ဖွံ့ဖြိုးရေးနှင့် ဆင်းရဲမှုလျှော့ချရေးကိုအထောက်အကူပြုမည်ဖြစ်ပြီးဒေသဖွံ့ဖြိုးရေးကိုများစွာအထောက်အကူဖြစ်စေမည်ဖြစ်ပါသည်၊ ကရင်ပြည်နယ်သည်သဘာဝတောတောင်များ၊လိုင်ဂူများ၊ မြစ်ချောင်းများဖြင့်သဘာဝခရီးသွားအခြေခံကောင်း များစွာ ရှိပြီး ပြည်နယ်အသီးသီးနှင့်လွယ်ကူစွာ သွားလာနိုင်အောင် လမ်းပမ်းဆက်သွယ်ရေးများ ကောင်းမွန်ပြီးငြိမ်းချမ်း သာယာမှုနှင့်အတူ မြန်မာနိုင်ငံ၏သဘာဝအခြေခံခရီးသွား လုပ်ငန်းများအတွက် အခြေခံကောင်းများ ရှိပြီး ဖြစ်ခြင်းကြောင့် နိုင်ငံတော်အတွက်နိုင်ငံခြားငွေရှာဖွေပေးနိုင်မည်ဖြစ်ပြီးဒေသဖွံ့ဖြိုးရေးကိုအထောက်အကူပြုနိုင်မည် ဖြစ်ပါသည်၊

ဒေသခံလုပ်သား (၁၂၀) ဦးခန့်ထိအလုပ်အကိုင်ရရှိမည်ဖြစ်ပြီးနိုင်ငံတော်အတွက် အခွန်များလည်းပေးဆောင် နိုင်မည်ဖြစ်၍ နိုင်ငံ၏စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအား တထောင့်တနေရာမှ ထောက်ကူနိုင်မည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်၊

လေးစားစွာဖြင့်

ဒေါ်ယဉ်ယဉ်ထွေး
မန်နေဂျင်းဒါရိုက်တာ
Min Myat Gone Co., Ltd.

ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန

ဘားအံရုံးခွဲ

စာအမှတ်၊ က - ဘအ / ၂၀၁၇( ၂၉၄ )

ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဇွန်လ ၁ ရက်

သို့

သက်ဆိုင်ရာ

အကြောင်းအရာ။ ။ **ဟိုတယ်တည်ဆောက်နေသည်မှာ မှန်ကန်ကြောင်း ထောက်ခံချက် ပေးပို့ခြင်း**

ကရင်ပြည်နယ်၊ ဘားအံမြို့၊ အမှတ်(၄)ရပ်ကွက်၊ မန်းအေးမြိုင်လမ်း၊ အိမ်အမှတ်(၄/၁၀၉၆)နေ ဦးသိန်းဇော်မင်း (၃/ဘအန(နိုင်) ၁၈၄၀၉၈)မှ ဘားအံမြို့နယ်၊ ရဲသာကျေးရွာအုပ်စု၊ ကမော့ကစင်ကျေးရွာအနီး၊ ကွင်းအမှတ်-၁၁၈၆၊ ဦးပိုင်အမှတ်(၂၉၆/၂) (၂၉၇) နှင့် **(N-၇၈)**တို့မှ မြေဧရိယာ (၃.၁၀)ဧကပေါ်တွင် ဖွဲကပင်သဘာဝဟိုတယ်အမည်ဖြင့် ဟိုတယ်အဆောက်အဦများ ဆောက်လုပ်ရန်မြေအဖြစ် လယ-၃၀ ခွင့်ပြုမိန့်ရရှိထားပြီးဖြစ်ပါ၍ (၂)ခန်းတွဲဘန်ဂလို (၅)လုံး အိပ်ခန်း (၁၀)ခန်း၊ (၄)ခန်းတွဲလုံးချင်း (၂)လုံး အိပ်ခန်း(၈)ခန်း၊ **VIP Guest House**(၁)လုံး အိပ်ခန်း(၁၂)ခန်းနှင့် **Main** ဟိုတယ်(၁)လုံး အိပ်ခန်း(၂၀)ခန်း၊ စုစုပေါင်းအိပ်ခန်း(၅၀)ပါ အဆောက်အဦများ ဆောက်လုပ်နေမှုအား သက်ဆိုင်ရာဌာန အဆင့်ဆင့်တို့၏ ထောက်ခံချက်များနှင့်တကွ လုပ်ထုံးလုပ်နည်းများနှင့်အညီ ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာနသို့ တင်ပြဆောင်ရွက်နေသည်မှာ မှန်ကန်ပါကြောင်း ထောက်ခံပါသည်။

1/6/17

(အေးမောင်လှိုင်)

ဒုတိယညွှန်ကြားရေးမှူး

မိတ္တူကို

- ရုံးလက်ခံ

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ပြည်နယ်အစိုးရအဖွဲ့ရုံး

ကရင်ပြည်နယ်

စာအမှတ် ၊ ၂၀၀ / ၇ - ၂၆ / ဦး ၆(        )

ရက် စွဲ ၊ ၂၀၁၆ ခုနှစ် ၊ ဇူလိုင်လ ၁၃ ရက်

သို့

ပြည်ထောင်စုဝန်ကြီး

ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန

နေပြည်တော်

အကြောင်းအရာ။ **ဟိုတယ်တည်ဆောက်ခွင့် လျှောက်ထားနိုင်ရေးအတွက် ထောက်ခံချက်ပြုပေးနိုင်ပါရန် လျှောက်ထားခြင်းကိစ္စ**

ရည် ညွှန်း ချက်။ ဘားအံမြို့၊ အမှတ်(၄)ရပ်ကွက်၊ ဦးသိန်းဇော်မင်း၏(၂၅-၆-၂၀၁၆)ရက်စွဲပါတင်ပြစာ

ကရင်ပြည်နယ်၊ ဘားအံမြို့၊ အမှတ်(၄)ရပ်ကွက်၊ မန်းအေးမြိုင်လမ်း၊ (၄/၁၀၉၆(က))နေ ဦးသိန်းဇော်မင်းမှ ဘားအံမြို့နယ်၊ ရဲသာကျေးရွာအုပ်စု၊ ကမော့ကစင်ကျေးရွာအနီး ကွင်းအမှတ် (၁၁၈၆)၊ ဦးပိုင်အမှတ်(၂၉၃/၁)၊ (၂၉၃/၂)၊ (၂၉၆)၊ (၂၉၇)နှင့် (N/၇၈)တို့မှ စုစုပေါင်းမြေဧရိယာ (၅.၁၀)ဧကပေါ်တွင် ဖွဲ့ကပင်သဘာဝဟိုတယ်အမည်ဖြင့် အိမ်ခန်း(၃၀)ခန်းပါ ဟိုတယ်အား Main Hotel (၁)လုံး၊ ဘန်ဂလို (၇)လုံး VIP Guest House (၁)လုံး၊ ကားပါကင်၊ ရေကူးကန်နှင့် အပန်းဖြေဥယျာဉ်တည်ဆောက်နိုင်ရေးအတွက် ဟိုတယ်နှင့် ခရီးသွားလာရေးဝန်ကြီးဌာနသို့ ထောက်ခံပေးနိုင်ပါရန် ရည်ညွှန်းချက်ပါစာဖြင့် တင်ပြလာသည့်ကိစ္စနှင့်ပတ်သက်၍ (၈-၇-၂၀၁၆) ရက်နေ့တွင် ကျင်းပပြုလုပ်သော ကရင်ပြည်နယ်အစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် (၁၁/၂၀၁၆) ဆုံးဖြတ်ချက် အပိုဒ်(၃) အရ **ကန့်ကွက်ရန်မရှိကြောင်း** ထောက်ခံတင်ပြအပ်ပါသည်။

၁၃/၇/၂၀၁၆

ပြည်နယ်ဝန်ကြီးချုပ်(ကိုယ်စား)

(ဇော်လွင်ဦး၊ ညွှန်ကြားရေးမှူး)

မိတ္တူကို

ပြည်နယ်စီမံကိန်း၊ ဘဏ္ဍာရေးနှင့် စည်ပင်သာယာရေးဝန်ကြီးဌာန၊ ဘားအံမြို့

ပြည်နယ်ဦးစီးမှူး၊ ပြည်နယ်ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန၊ ဘားအံမြို့

ဦးသိန်းဇော်မင်း၊ အမှတ်(၄)ရပ်ကွက်၊ ဘားအံမြို့

မျှော

လက်ခံ

လျှို့ဝှက်

Su7/Destop/right/EC(2016) 8

ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန
ဘားအံရုံးခွဲ

စာအမှတ်၊ က - ဘအ / ၂၀၁၇ ( ၅၀၂ )
ရက်စွဲ၊ ၂၀၁၇ခုနှစ်၊ စက်တင်ဘာလ (၁၂)ရက်

သို့

ဝန်ကြီးရုံး
ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန
နေပြည်တော်

အကြောင်းအရာ။ **ဇွဲကပင်သဘာဝဟိုတယ် တည်ဆောက်ခွင့် ခွင့်ပြုမိန့်ရရှိရေးအတွက် လိုအပ်သော အထောက်အထားများပေးပို့တင်ပြခြင်း။**

ရည်ညွှန်းချက် ။ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန၊ ဘားအံရုံးခွဲ၏ (၂၁-၄-၂၀၁၇) ရက်စွဲပါ စာအမှတ်၊ က-ဘအ/၂၀၁၇(၂၁၇)

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ရည်ညွှန်းပါစာဖြင့် ဘားအံရုံးခွဲမှ ဘားအံမြို့နယ်၊ ရဲသာကျေးရွာအုပ်စု၊ ကမော့ကစင်ကျေးရွာအနီး ကွင်းအမှတ်(၁၁၈၆)၊ ဦးပိုင်အမှတ်၊ (၂၉၃/၁) (၂၉၃/၂) (၂၉၆) (၂၉၇)နှင့် (N-၇၈)တို့တွင် စုစုပေါင်း မြေဧရိယာ(၅.၁၀)ဧကပေါ်တွင် ဇွဲကပင်သဘာဝဟိုတယ်အမည်ဖြင့် အိပ်ခန်း(၅၀)ပါဟိုတယ်အဆောက်အဦး တည်ဆောက်ခွင့်၊ ခွင့်ပြုမိန့်ရရှိရေးအတွက် စစ်ဆေးချက်မှတ်တမ်းတင်ပြရာတွင် လုပ်ငန်းရှင်မှ တင်ပြရန်လိုအပ်သော ခရိုင်အဆင့် ထောက်ခံချက်အထောက်အထားများအား ဤစာနှင့်အတူ ပူးတွဲ၍ ပြန်လည်ပေးပို့တင်ပြအပ်ပါသည်။

(အေးမောင်လှိုင်)
ဒုတိယညွှန်ကြားရေးမှူး

မိတ္တူကို-
-ရုံးလက်ခံ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၁၈-ဂ(အုပ်ချုပ်မှု) /နပတ/ ၀၇၅၃
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ မတ်လ ၁၁ ရက်

သို့

ဥက္ကဋ္ဌ
ကရင်ပြည်နယ်လယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့

အကြောင်းအရာ ။ **သဘောထားမှတ်ချက်ပြန်ကြားပေးရန်ကိစ္စ**

ရည် ညွှန်း ချက် ။ ကရင်ပြည်နယ် လယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့၏ (၁၅-၂-၂၀၁၆) ရက်စွဲပါစာအမှတ်၊ဂ၂၈/လယ-(အခြားနည်း)/၂၀၁၆

၁။ ကရင်ပြည်နယ်၊ ဘားအံမြို့နယ်၊ ရဲသာကျေးရွာအုပ်စု၊ ကွင်းအမှတ်(၁၁၈၆)၊ ကမော့ကစင်အရှေ့ကွင်း၊ ဦးပိုင်အမှတ် (၂၉၃/၁)(၂၉၅/၂)(၂၉၆)(၂၉၇)ရှိ လယ်မြေ ဧရိယာ (၄.၅၉)ဧကကို ဖွဲ့ကပင်သဘာဝအပန်းဖြေဥယျာဉ်နှင့် ဟိုတယ် တည်ဆောက်ရန်အတွက်လယ်ယာမြေကိုအခြားနည်းဖြင့် အသုံးပြုခွင့်ရရှိရေးအတွက် ဦးသိန်းဇော်မင်း (၃/ဘအန(နိုင်)၁၈၄၀၉၈)မှ တင်ပြလျှောက်ထားလာမှုအပေါ်တွင် ဗဟိုလယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့သို့ လျှောက်ထားနိုင်ရန်အတွက်ဤဝန်ကြီးဌာန၏သဘောထားမှတ်ချက်ကိုပြန်ကြားပေးနိုင်ပါရန် ကရင်ပြည်နယ်လယ်ယာမြေ စီမံခန့်ခွဲမှုအဖွဲ့က ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ သို့ဖြစ်ပါ၍အဆိုပါဦးသိန်းဇော်မင်းမှကရင်ပြည်နယ်၊ဘားအံမြို့နယ်၊ ရဲသာကျေးရွာအုပ်စု၊ ကွင်းအမှတ်(၁၁၈၆)၊ ကမော့ကစင်အရှေ့ကွင်း၊ ဦးပိုင်အမှတ် (၂၉၃/၁)(၂၉၅/၂)(၂၉၆)(၂၉၇)ရှိ လယ်ယာမြေ(၄.၅၉)ဧကကို အခြားနည်းဖြင့် အသုံးပြုခွင့်ရရှိရေး လျှောက်ထားလာခြင်းကိစ္စနှင့်ပတ်သက်၍(၉-၃-၂၀၁၆)ရက်နေ့တွင် ကျင်းပပြုလုပ်သော ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၏ စီမံခန့်ခွဲမှုကော်မတီအစည်းအဝေး၌ ထည့်သွင်းဆွေးနွေးရာတွင်

ဖော်ပြပါဟိုတယ်ဆောက်လုပ်မည့်နေရာအား လယ်ယာမြေ(အစား) အခြားနည်းဖြင့်အသုံးပြုခွင့်ရရှိနိုင်ရေးနှင့်ပတ်သက်၍ သက်ဆိုင်ရာကရင်ပြည်နယ်အစိုးရအဖွဲ့၊ ပြည်နယ်လယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့နှင့် အခြားသက်ဆိုင်ရာဌာနများမှ ကန့်ကွက်ရန်မရှိပါက ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနအနေဖြင့် သီးခြားသဘောထား မှတ်ချက်ပေးရန်မရှိပါ၍မူအားဖြင့်ကန့်ကွက်ရန်မရှိပါကြောင်းနှင့်လုပ်ငန်းရှင်၏မြေပိုင်ဆိုင်မှုသည်ခိုင်မာမှု ရှိရန်လိုအပ်ပါကြောင်းနှင့်သက်ဆိုင်ရာ ကရင်ပြည်နယ်အစိုးရအဖွဲ့၏ အနာဂတ်စီမံကိန်းများနှင့်လွတ်ကင်းသည်ကိုစိစစ်ပြီးမှ ဆောင်ရွက်သင့်သည်ကို အကြံပြုပါကြောင်း ညှိနှိုင်းဆုံးဖြတ်ခဲ့မှုအားသိရှိနိုင်ပါရန် အကြောင်းကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

(ရည်မွန်၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

ကရင်ပြည်နယ်အစိုးရအဖွဲ့

ညွှန်ကြားရေးမှူးချုပ်၊ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန

ဒုတိယညွှန်ကြားရေးမှူး၊ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန(ဘားအံရုံးခွဲ)

ဦးသိန်းဇော်မင်း (၃/ဘအန(နိုင်) ၁၈၄၇၉၈)

ရုံးလက်ခံ/မျှော

# ZWEKABIN NATURAL HOTEL

KYN IC-35
10.5.2018

စာအမှတ်

ရက်စွဲ။ ၂၀၁၈ခုနှစ်၊ မေလ၊ (၁၀) ရက်

သို့

ဥက္ကဋ္ဌ

ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

ဘားအံမြို့

အကြောင်းအရာ။ ။ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းများကြီးကြပ်ရေးအဖွဲ့၏ (၂/၂၀၁၈) အစည်းအဝေး ဆုံးဖြတ်ချက်များအား ပြန်လည်တင်ပြခြင်း။

ရည်ညွှန်းချက်။ ။ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၇.၅.၂၀၁၈) ရက်စွဲပါ စာအမှတ်၊ ကရန/ရနမ/၂၀၁၈ (၀၀၅၆)

၁။ ရည်ညွှန်းပါစာဖြင့် ၂၀၁၈ ခုနှစ်၊ မေလ (၃)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း များကြီးကြပ်ရေးအဖွဲ့၏ (၂/၂၀၁၈) ကြိမ်မြောက်အစည်းအဝေးသို့ ဇွဲကပင်သဘာဝ ဟိုတယ်အမည်ဖြင့် အဆင့်မြင့်ဟိုတယ်တည်ဆောက်ပြီး ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ Min Myat Gone Co;Ltd ၏ (ကိုယ်စား) မန်နေဂျင်း ဒါရိုက်တာ ဒေါ်နန်းယဉ်ယဉ်ထွေးမှ အတည်ပြုလျှောက်လွှာ တင်ပြခဲ့ရာ အစည်းအဝေးမှ ဆုံးဖြတ်ချက်များကို လိုက်နာဆောင်ရွက်သွားရန်နှင့် အတည်ပြုလွှာအား လက်ခံပါကြောင်း အကြောင်းကြားလာပါသည်။

၂။ အဆိုပါအစည်းအဝေးမှ ဆုံးဖြတ်ခဲ့သော ရည်ညွှန်းစာပါအချက် (၄) ချက်အား အောက်ပါအတိုင်း ပြန်လည်တင်ပြအပ်ပါသည်။

(က) ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာနမှ ဇွဲကပင်သဘာဝဟိုတယ်အား တည်ဆောက်ခွင့် ရရှိရေး ကရင်ပြည်နယ်အစိုးရအဖွဲ့နှင့် ဟိုတယ်နှင့် ခရီးသွားလာရေးဝန်ကြီးဌာနများသို့ တင်ပြလျှောက်ထားနိုင်ရန် (၁၂.၁၁.၂၀၁၇) ရက်နေ့တွင် ကွင်းဆင်းစစ်ဆေးခဲ့ပြီး ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းနှင့် ပတ်သတ်၍ သဘောထားမှတ်ချက်၊ ဟိုတယ်တည်ဆောက်ရေးလုပ်ငန်း ကွင်းဆင်းစစ်ဆေးချက်အစီရင်ခံစာ မှတ်တမ်းဓါတ်ပုံတို့အား ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန၏ (၁၃.၉.၂၀၁၇) ရက်စွဲပါ စာအမှတ်၊ ၄၂၈/ကရ-

HPA-AN-DON YINN ROAD, NEAR KAMOTKASIN VILLAGE, HPA-AN
PH : 09 766666117, 09 766666118, 09 766666119
E-MAIL : Info@zwekabinnaturalresort.com

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူတို့ ကိုယ်စီ ကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အသီးသီးနှင့် ယှဉ်တွဲ ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့်အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲ လက်မှတ် |
|---|---|---|---|
| ဦးစောသိန်းဇော်မင်း<br>ကုန်သည်<br>အမှတ်(၄/က) ၁၀၉၆၊ အမှတ်(၄)ရပ်ကွက်၊ မန်းအေးမြိုင်လမ်းနှင့် မေတ္တာလမ်း၊ ဘားအံမြို့၊ ကရင်ပြည်နယ်။ | ၃/ဘအန (နိုင်) ၁၈၄၀၉၈ | ၅၀၀ | |
| ဒေါ်နန်းယဉ်ယဉ်ထွေး<br>ကုန်သည်<br>အမှတ်(၄/က) ၁၀၉၆၊အမှတ်(၄)ရပ်ကွက်၊ မန်းအေးမြိုင်လမ်းနှင့် မေတ္တာလမ်း၊ ဘားအံမြို့၊ ကရင်ပြည်နယ်။ | ၃/ဘအန (နိုင်) ၁၆၃၉၇၉ | ၃၀၀ | |
| ဦးသန့်ဇင်စိုး<br>ကုန်သည်<br>အ က် (၉)ရပ်ကွက်၊ ပအို့ဝ်စု၊ ဘားအံမြို့၊ ကရင်ပြည်နယ်။ | ၁၂/ပဇတ (နိုင်) ၀၀၇၁၆၆ | ၂၀၀ | |

ပြည်နယ် ။ နေ့စွဲ ၊ ၂၀၁၇ ခုနှစ် ၁ လ၊ ၁၈ ရက်။

ပါလက်မှတ်ရှင်များသည် ကျွန်ုပ်၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

## မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# မင်းမြတ်ဂုဏ် ကုမ္ပဏီ လီမိတက်

၏

### သင်းဖွဲ့စည်းမျဉ်းများ

❖ ❖ ❖ ❖ ❖ ❖ ❖

ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ နောက်ဆက်တွဲ ပထမဇယားပုံစံ 'က' ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒပုဒ်မ ၁၇(၂)တွင် ဖော်ပြပါရှိသည့် မလိုက်နာ မနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

### အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

ဤကုမ္ပဏီသည် အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍ အောက်ပါ သတ်မှတ်ချက်များသည် အကျိုးသ[illegible]ရောက် စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏ အစုရှင် အရေအတွက်ကို ငါးဆယ် အထိသာ ကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်) တစ်ခုခုအတွက် ငွေထည့်ဝင်ရန် အများပြည်သူတို့အား ကမ်းလှမ်းခြင်း မပြုလုပ်ရန် တားမြစ်ထားသည်။

### မ,တည် ရင်းနှီးငွေနှင့် အစုရှယ်ယာ

ကုမ္ပဏီ၏ သတ်မှတ်မ,တည်ငွေရင်းမှာ ကျပ်မှာ ၅၀၀,၀၀၀,၀၀၀ /-(ကျပ်
**သန်းငါးရာ** တိတိ) ဖြစ်၍ ငွေကျပ် ၁၀၀၀၀၀.၀၀ /-(ကျပ်
**တစ်သိန်း** တိတိ) တန်အစုရှယ်ယာပေါင်း ၅၀၀၀ ခွဲထားပါသည်။
ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက်များ နှင့်အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာ ရှိစေရမည်။

မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှု အောက်တွင် ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက် အခြေအနေ တစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်းတို့ကို ဆောင်ရွက်နိုင်သည်။

အစုရှယ်ယာလက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် အခြား ပုဂ္ဂိုလ်များက လက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏တံဆိပ်ရိုက်နှိပ်ထုတ်ပေးရမည်။ အစုရှယ်ယာလက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကို သော်လည်းကောင်း၊ ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော အခြား သက်သေခံ အထောက်အထား တစ်စုံတစ်ရာကို တင်ပြစေ၍ သော်လည်းကောင်း ထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင်ကိုယ်စားလှယ်ကို ဒါရိုက်တာများက အသိအမှတ်ပြုပေးရမည် ဖြစ်သည်။

ဒါရိုက်တာများသည် အစုရှင်များက ၄င်းတို့၏အစုရှယ်ယာများအတွက် မပေးသွင်းရသေးသော ငွေများကို အခါအားလျော်စွာ တောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၄င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်းအတွက် ဒါရိုက်တာမျာ်းက သတ်မှတ်ထားသည့် ပုဂ္ဂိုလ်များထံ သတ်မှတ်သည့်အချိန်နှင့် နေရာတွင် ပေးသွင်းစေရန် တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက် အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းကို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

သင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေ အတွက်သည် ( ၂ ) ဦးထက်မနည်း၊ ( ၅၀ ) ဦးထက်မများစေရ။

ပထမဒါရိုက်တာများသည်-

(၁) ဦးစောသိန်းဇော်မင်း (၃) ဦးသန့်ဇင်စိုး

(၂) ဒေါ်နန်းယဉ်ယဉ်ထွေး

တို့ဖြစ်ကြပါသည်။

ဒါရိုက်တာများသည် ၄င်းတို့အနက်မှတစ်ဦးကို မန်နေဂျင်းဒါရိုက်တာအဖြစ် အချိန်အခါအလိုက် သင့်လျော်သော သတ်မှတ်ချက်များ၊ ဥဏ်ပူဇော်ခများဖြင့် ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများ အားလုံးကို ၄င်းကအသုံးပြုနိုင်သည်။

ဒါရိုက်တာတစ်ဦး ဖြစ်မြောက်ရန်လိုအပ်သော အရည်အချင်းသည် ကုမ္ပဏီ၏ အစုရှယ်ယာ အနည်းဆုံး ( - )စု ကိုပိုင်ဆိုင်ခြင်းဖြစ်၍ ၄င်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၈၅ ပါ ပြဋ္ဌာန်းချက် များကို လိုက်နာရန်တာဝန်ရှိသည်။

အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှ မပေးပဲ ဒါရိုက်တာ အဖွဲ့သည် ၄င်းတို့၏ ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

ဒါရိုက်တာများသည်၄င်းတို့သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံဆွေးနွေးခြင်း၊ အစည်းအဝေးရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံး ဒါရိုက်တာဦးရေ သတ်မှတ်ခြင်းတို့ကိုဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦး တက်ရောက်လျှင် အစည်းအဝေးထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့် ပြဿနာမဆိုပေါ်ပေါက်ပါကမန်နေးဂျင်းဒါရိုက်တာ၏အဆုံးအဖြတ်သည်အတည်ဖြစ်ရမည်။

မည်သည့်ကိစ္စများကိုမဆိုမဲခွဲဆုံးဖြတ်ရာတွင် မဲအရေအတွက်တူနေပါကသဘာပတိသည်ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

ဒါရိုက်တာများ၏အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေး ခေါ်နိုင်သည်။

ဒါရိုက်တာအားလုံးက လက်မှတ် ရေးထိုးထားသော ရေးသားထားသည့် ဆုံးဖြတ်ချက် တစ်ရပ်သည် နည်းလမ်းတကျ ခေါ်ယူ ကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက် ကဲ့သို့ပင် ကိစ္စ အားလုံး အတွက် အကျိုးသက် ရောက်စေရမည်။

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့် တာဝန်များ

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ နောက်ဆက်တွဲဇယားပုံစံ(က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ်းသော အထွေထွေ အာဏာများကို မထိခိုက်စေဘဲ ဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများ မည်ဟု အတိအလင်း ထုတ်ဖော်ကြေငြာသည်။ အာဏာဆိုသည်မှာ -

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော တန်ဖိုးနှင့် စည်းကမ်းများ ၊ အခြေအနေ များ သတ်မှတ်၍ ကုမ္ပဏီက ရယူရန် အာဏာရှိသည့် မည်သည့်ပစ္စည်း ၊ အခွင့်အရေးများ၊ အခွင့်အလမ်းများ မဆို ဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့် ရယူပိုင်ဆိုင်ရန် အပြင် ကုမ္ပဏီက ပိုင်ဆိုင်ခွင့်ရှိသော မည်သည့်ပစ္စည်း၊ အခွင့်အရေးများ ၊ အခွင့်အလမ်း များကိုမဆို သင့်တော်သော စည်းကမ်းချက်များသတ်မှတ်၍ ရောင်းချခြင်း၊ အငှားချခြင်း ၊ ဖွန့်လွှတ်ခြင်း သို့မဟုတ် အခြားနည်းလမ်းများဖြင့် ဆောင်ရွက် ခြင်းတို့ကို ပြုလုပ်ရန် ။

(၂) သင့်လျော်သော စည်းကမ်းသတ်မှတ်ချက်များဖြင့် ငွေကြေးများကို ချေးငှားရန် သို့မဟုတ် အဆိုပါ ချေးငှားသော ငွေကြေးများကို ပြန်လည်ပေးဆပ်ရန် အပေါင်အာမခံများ ထားရှိ ရန် အပြင်၊ အထူးသဖြင့် ဤ ကုမ္ပဏီ၏ ဒီဘင်ချာများ ၊ ဒီဘင်ချာစတော့ပ်များ ၊ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ယခုလက်ရှိ နှင့် နောင်ရှိမည့် ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တဒေသ ကို အပေါင်ပြု၍ ထုတ်ဝေရန် ။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာ များ၊ ငွေချေးစာချုပ်များ ၊ သို့မဟုတ် ဒီဘင်ချာများ သို့မဟုတ် ဤကုမ္ပဏီ၏ အခြားသော အာမခံ စာချုပ်များကိုထုတ်ပေးရန်၊ ထို့အပြင် အဆိုပါအစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့်ပေးသွင်းပြီး သော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း ၊ တစ်စိတ်တစ်ဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများ အနေဖြင့် သော် လည်းကောင်း ၊သဘောတူညီ သကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ ၊ ဒီဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော အာမခံ စာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ဖြစ်စေ ၊ ထိုကဲ့သို့ မဟုတ်ဘဲ ဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ ၊ တာဝန်ယူထားသည့် လုပ်ငန်း များ ပြီးစီးအောင် ဆောင်ရွက်ခြင်း အလို့ငှာ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများ အပါအဝင်ဤကုမ္ပဏီ၏ပစ္စည်းရပ်များအားလုံးသို့မဟုတ်တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍ သော် လည်းကောင်း၊ အပေါင်ပြု၍သော် လည်းကောင်း ၊ သို့မဟုတ် အစုရှယ်ယာများ အတွက် ငွေများတောင်းခံခေါ်ယူ၍သော်လည်းကောင်း၊ ခွင့်ပြုရန် သို့မဟုတ် သင့်လျော် သည့် အတိုင်း ဆောင်ရွက်ရန် ။

(၅) မန်နေဂျာများ ၊ အတွင်းရေးမှူးများ အရာရှိများ ၊ စာရေးများ ၊ ကိုယ်စားလှယ်များနှင့် ဝန်ထမ်း များကို အမြဲ တမ်းယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက် ခန့်ထားခြင်း ၊ ရပ်စဲခြင်း၊ဆိုင်းငံ့ခြင်းများအတွက် လည်းကောင်း ၊အဆိုပါပုဂ္ဂိုလ်တို့၏ တာဝန်များ၊ အာဏာများ ၊ လစာငွေများ ၊ အခြားငွေကြေးများကို သတ်မှတ်ရာ၌ လည်းကောင်း ၊ အာမခံပစ္စည်းများ တောင်းခံရာ၌ လည်းကောင်း သင့်လျော်သလို ဆောင် ရွက်ရန် ၊ ထို့အပြင် အဆိုပါကိစ္စများ အတွက် ကုမ္ပဏီ၏ မည့်သည့်အရာရှိကိုမဆို ကိစ္စရပ်များ အားလုံးကို ဖြစ်စေ ၊ တစ်စိတ်တစ်ဒေကို ဖြစ်စေ ဒါရိုက်တာများ၏ ကိုယ်စား ဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ် ရန် ။

(၆) ဤ ကုမ္ပဏီ၏ ဒါရိုက်တာ တစ်ဦးအား ဒါရိုက်တာရာထူးနှင့် တွဲဖက်၍ မန်နေးဂျင်း ဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲမန်နေဂျာ အဖြစ် ခန့်ထားရန် ။

(၇) မည်သည့်အစုရှင် ထံမှမဆို ၄င်းတို့ ၏ အစုရှယ်ယာများ အားလုံးကို ဖြစ်စေ ၊ အချို့အဝက်ကို ဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသော စည်းကမ်းချက်များဖြင့် လက်ခံရန် ။

(၈) ဤ ကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြား အကြောင်းများကြောင့် ဖြစ်သော မည်သည့်ပစ္စည်းကိုမဆို ကုမ္ပဏီ၏ ကိုယ်စား လက်ခံသိန်းသိမ်းထားရန် အတွက် မည်သည့် ပုဂ္ဂိုလ် သို့မဟုတ်ပုဂ္ဂိုလ်များကို မဆို ခန့်ထားရန်နှင့်အဆိုပါ ယုံမှတ်အပ်နှံခြင်းများနှင့် ပတ်သက်၍ လိုအပ်သော စာချုပ် စာတမ်း များ ချုပ်ဆို ပြုလုပ်ရန် ။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့် စပ်လျဉ်း၍ ဤကုမ္ပဏီကပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီပေါ် သို့မဟုတ် ဤကုမ္ပဏီ၏အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆိုဆောင်ရွက်မှုများကို တရားစွဲဆို ၊အရေးယူ ၊ခုခံကာကွယ်ရန် သို့မဟုတ်ခွင့်လွှတ်ရန် ၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ်တောင်းခံသော ကြွေးမြီးများနှင့်ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက်သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန် ။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ်ရရန် ရှိသောငွေတောင်းခံခြင်းများကို ဖြန်ဖြေရေးခုံသမာဓိထံသို့ဖြေရှင်းရန်အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေးခုံသမာဓိ၏ ဆုံးဖြတ်ချက် အတိုင်း လိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီက ရရန်ရှိသော တောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ ပေးရန် ရှိသော ငွေကြေးများအတွက် ပြေစာများပြုလုပ်ခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသော နည်းဖြင့် စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) **လူမွဲစာရင်းခံရခြင်း၊ကြွေးမြီးမဆပ်နိုင်ခြင်းကိစ္စများနှင့် ပတ်သက်၍ ဤကုမ္ပဏီ၏ ကိုယ်စားဆောင်ရွက်ရန်။**

(၁၃) ငွေလွှဲစာတမ်းများ၊ချက်လက်မှတ်များ၊ဝန်ခံကတိစာချုပ်များ ၊ ထပ်ဆင့်လက်မှတ်ရေးထိုးခြင်းများ၊ လျှော်ပစ်ခြင်းများ၊ ကန်ထရိုက်စာချုပ်များနှင့် စာရွက်စာတမ်းများကို ကုမ္ပဏီ၏ ကိုယ်စား မည်သူက လက်မှတ်ရေးထိုးခွင့် ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက သင့်လျော်လျောက်ပတ်သော နည်းလမ်းများဖြင့် လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင်ငွေများကို အာမခံပစ္စည်းပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ ရင်းနှီးမြှုပ်နှံမှုထားရန်နှင့် စီမံခန့်ခွဲထား ရန်၊ ထို့အပြင် အချိန်ကာလအားလျော်စွာ မြှုပ်နှံထား သောငွေများကိုပြန်လည် ရယူရန်နှင့် ပြင်ဆင်ပြောင်းလွှဲရန် ။

(၁၅) ဤ ကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေးစိုက်ထုတ် ကုန်ကျခံထားသော ဒါရိုက်တာ သို့မဟုတ် အခြား ပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းများကို သင့်လျော်သည်ဟု ယူဆပါကဆောင်ရွက်ခွင့်ပြုရန် အဆိုပါပေါင်နှံခြင်းဆိုရာ၌ ရောင်းချ နိုင်သည့် အာဏာနှင့် အခြားသော သဘောတူညီထားသည့် တရားဝင်သဘောတူညီချက်များနှင့် ဥပဒေ ပြဋ္ဌာန်းချက်များ ပါပါဝင်သည်။

(၁၆) ဤကုမ္ပဏီက ခန့်အပ်ထားသော မည်သည့်အရာရှိ သို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အတိအကျဆောင်ရွက်ခဲ့သောလုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက်ရရှိသော အမြတ်ငွေမှ ကော်မရှင်ပေးခြင်းသို့မဟုတ်ကုမ္ပဏီ၏အထွေထွေအမြတ်အစွန်းမှ ခွဲဝေပေးခြင်းများ ပြုလုပ်ရန်နှင့် အဆိုပါကော်မရှင်များ အမြတ်များ ခွဲဝေပေးခြင်းစသည်တို့ကို ဤကုမ္ပဏီ၏ လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသ အဖြစ် သတ်မှတ်ရန်။

(၁၇) ဤ ကုမ္ပဏီ၏ လုပ်ငန်းများ အရာရှိများ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ ၊ စည်းကမ်းဥပဒေများကို အခါ အားလျော်စွာ သတ်မှတ်ခြင်း ၊ ပြင်ဆင်ခြင်း ၊ ဖြည့်စွက်ခြင်း များ ဆောင်ရွက်ရန်။။

(၁၈) ဤ ကုမ္ပဏီ၏ လုပ်ငန်းအတွက် ဤကုမ္ပဏီ အမည်ဖြင့်ဖြစ်စေ ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ လိုအပ်သည် ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးမြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများ ကို ပြုလုပ်ရန် ၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန် အပြင် အဆိုပါ ဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကို လည်းကောင်း ၊ ၄င်းတို့နှင့် စပ်လျဉ်း သော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန် ။

(၁၉) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန် အတွက် မည်သည့် ပြည်တွင်းပြည်ပပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်းများ၊ ကုမ္ပဏီသိုမဟုတ်ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်း ထံမှ မဆို ငွေချေးယူရန် ။

အထွေထွေ အစည်းအဝေးကြီးများ

၁၅။ ကုမ္ပဏီကို ဥပဒေအရ ဖွဲ့စည်းတည်ထောင်ပြီးသည့် နေ့မှ တစ်ဆယ့်ရှစ်လအတွင်း အထွေထွေ သင်းလုံးကျွတ် အစည်းအဝေးကြီးကို ကျင်းပရမည်။ ထို့နောက် ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေး သည့် အချိန်နှင့် နေရာများတွင် ပြက္ခဒိန်နှစ် တစ်နှစ်လျှင် အနည်းဆုံး တစ်ကြိမ် (နောက်ဆုံး ကျင်းပသည့် အထွေထွေအစည်း အဝေးကြီးနှင့် တစ်ဆယ့်ငါးလထက် မပိုသည့် အချိန်၌ ) ကျင်းပရမည်။ သင်းလုံးကျွတ် အစည်းအဝေး စတင်၍ လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင် အစည်းအဝေးအထမြောက်ရန် သတ်မှတ်သည့် အစုရှင် အရေ အတွက် မတက်ရောက်သော မည်သည့်သင်းလုံးကျွတ် အစည်းအဝေးတွင်မဆို လုပ်ငန်းနှင့် ပတ်သက်၍ ဆုံးဖြတ် ဆောင်ရွက်ခြင်း မပြုရ ၊ ဤတွင် အခြားနည်းသတ်မှတ် ပြဋ္ဌာန်းခြင်း မရှိလျှင်ထုတ်ဝေထားသည့် မ,တည်ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ်ရာခိုင်နှုန်းထက် မနည်း ပိုင်ဆိုင်ကြသည့် (နှစ်ဦးထက် မနည်းသော) အစုရှင်များကိုယ်တိုင် တက်ရောက်လျှင် လုပ်ငန်းကိစ္စ အားလုံး ဆောင်ရွက်ရန် အတွက် အစည်းအဝေး အထမြောက်သည့် ဦးရေ ဖြစ်သည်။ အကယ်၍ ကုမ္ပဏီတွင် အစုရှင် အရေအတွက် နှစ်ဦးတည်းသာရှိသည့် ကိစ္စတွင်မူ ထိုနှစ်ဦးတည်း သည်ပင်လျှင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အရေအတွက် ဖြစ်စေ ရမည်။

အမြတ်ဝေစုများ

၁၆။ သင်းလုံးကျွတ် အစည်းအဝေးတွင် ဤကုမ္ပဏီ၏အစုရှင်များအား ခွဲဝေပေးသည့် အမြတ်ဝေစုကို ကြေငြာရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာနှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေ ရသေးသည့် အမြတ်ပမာဏမှအပ အမြတ် ဝေစုကို ခွဲဝေမပေးရ ။

ရုံးဝန်ထမ်းများ

၁၇။ ကုမ္ပဏီသည် လုပ်ငန်းတစ်ခုကို ဖွင့်လှစ်၍ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်းပြည့်မီသူ ပုဂ္ဂိုလ် တစ်ဦးအား အထွေထွေ မန်နေဂျာအဖြစ် ခန့်အပ်ရန်နှင့် အခြားအရည်အချင်း ပြည့်မီသူများ အား ရုံးဝန်ထမ်းများအဖြစ် ခန့်အပ်မည်ဖြစ်သည်။ လစာ ၊ ခရီးသွားလာစရိတ် နှင့် အခြား အသုံးစရိတ်များကဲ့သို့သော ဘဏ် ပူဇော်ခ များနှင့် အခကြေးငွေများကို ဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၄င်း သတ်မှတ်ချက်များကို သင်းလုံးကျွတ် အစည်းအဝေးက အတည်ပြု ရမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ ထိရောက်စွာ လုပ်ငန်းလည်ပတ်မှု အားလုံး အတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး မန်နေးဂျင်းဒါရိုက်တာအား တာဝန်ခံ၍ ဆောင်ရွက်ရမည်။

## ငွေစာရင်းများ

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကိုအောက်ဖော်ပြပါသတ်မှတ်ချက်များ နှင့် အညီ အားသို ထိန်းသိမ်းဆောင်ရွက်သွားရမည် ။

(က) ကုမ္ပဏီ၏ ရငွေ၊ သုံးငွေများ၏ ပမာဏနှင့် ၄င်းရငွေ ၊ သုံးငွေများ ဖြစ်ပေါ်ခြင်းနှင့် စပ်လျဉ်းသည့် အကြောင်း ကိစ္စများ ။

(ခ) ကုမ္ပဏီ ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(ဂ) ဤ ကုမ္ပဏီ၏ ရရန် ပိုင်ခွင့် နှင့် ပေးရန် တာဝန်များ။

၁၉။ ငွေစာရင်းစာအုပ် အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံးများ သို့မဟုတ် ဒါရိုက်တာများက သင့်လျော်သည်ဟု ထင်မြင်ယူဆသော အခြားနေရာများတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး ၊ ရုံးချိန် အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

## စာရင်းစစ်

၂၀။ စာရင်းစစ်များကိုခန့်အပ်ထားရမည်။ ၄င်းစာရင်းစစ်များ၏ တာဝန်သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်း စည်းကမ်း များနှင့် လိုက်လျော ညီထွေ ဖြစ်ရမည်။

## နို့တစ်စာ

၂၁။ ဤကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆို နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာပါသော စာကိုစာတိုက်ခ ကြိုတင်ပေးထား၍ ၄င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက်မှ တဆင့်လိပ်မူပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်ပါသည်။

## တံဆိပ်

၂၂။ ဒါရိုက်တာများသည် တံဆိပ်ကို လုံခြုံစွာ ထိန်းသိမ်းထားရန်အတွက် စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများကကြိုတင်ပေး အပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတပါး၊ ထို့အပြင် အနည်းဆုံး ဒါရိုက်တာ တစ်ဦး ရှေ့မှောက်ကွင်မှတပါး မည်သည့်အခါမျှ မသုံးရ။ တံဆိပ်ရိုက်နှိပ် ထားသည့် စာချုပ်စာတမ်း တိုင်းတွင် ထိုဒါရိုက်တာက လက်မှတ်ရေးထိုးရမည်။

## လျော်ကြေး

၂၃။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၈၆(ဂ) တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ၊ လက်ရှိတရားဝင် တည်ဆဲဥပဒေ ပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူး သို့မဟုတ် အခြားအရာရှိတစ်ဦးဦးမှာ မိမိတာဝန်ဝတ္တရားများကို ဆောင်ရွက်ရာ၌ဖြစ်စေ ထိုတာဝန် ဝတ္တရားများနှင့် စပ်လျဉ်း၍ဖြစ်စေ ကျခံခဲ့သည့်စရိတ်များ၊ တောင်းခံငွေများ ၊ဆုံးရှုံးငွေများ၊ ကုန်ကျငွေ များ နှင့် ကြွေးမြီးတာဝန်များအတွက် ကုမ္ပဏီထံမှ လျော်ကြေးရထိုက်ခွင့်ရှိစေရမည်။

## ဖျက်သိမ်းခြင်း

၂၄။ ကုမ္ပဏီ၏ အထွေထွေ အစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအား ဖျက်သိမ်း နိုင်သည်။ ယင်းသို့ ဖျက်သိမ်းရာတွင် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာ ပြင်ဆင် ပြောင်းလဲထားသည့် တရားဥပဒေများတွင် ပါဝင်သည့် စည်းမျဉ်းများအတိုင်း လိုက်နာပြုလုပ်ရမည်။

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကိုယ်စီ ကိုယ်ငှသည် ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ သီးသီးနှင့် ယှဉ်တွဲ ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် ကြပါသည်။

| အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့်အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲ လက်မှတ် |
|---|---|---|---|
| ဦးစောသိန်းဇော်မင်း<br>ကုန်သည်<br>အမှတ်(၄/က) ၁၀၉၆၊ အမှတ်(၄)ရပ်ကွက်၊ မန်းအေးမြိုင်လမ်းနှင့် မေတ္တာလမ်း၊ ဘားအံမြို့၊ ကရင်ပြည်နယ်။ | ၃/ဘအန (နိုင်) ၁၈၄၀၉၈ | ၅၀၀ | |
| ဒေါ်နန်းယဉ်ယဉ်ထွေး<br>ကုန်သည်<br>အမှတ်(၄/က) ၁၀၉၆၊အမှတ်(၄)ရပ်ကွက်၊ မန်းအေးမြိုင်လမ်းနှင့် မေတ္တာလမ်း၊ ဘားအံမြို့၊ ကရင်ပြည်နယ်။ | ၃/ဘအန (နိုင်) ၁၆၃၉၇၉ | ၃၀၀ | |
| ဦးသန့်ဇင်စိုး<br>ကုန်သည်<br>အမှတ် (၉)ရပ်ကွက်၊ ပအိုဝ်စု၊ ဘားအံမြို့၊ ကရင်ပြည်နယ်။ | ၁၂/ပဇတ (နိုင်) ၀၀၇၁၆၆ | ၂၀၀ | |

ပြည်နယ် ။ နေ့စွဲ ၊ ၂၀၁၇ ခုနှစ် ၁ လ၊ ၁၈ ရက်။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

THE MYANAMR COMPANY ACT

PRIVATE COMPANY LIMITED BY SHARES

**Memorandum Of Association**

OF

# MIN MYAT GONE COMPANY LIMITED

❖ ❖ ❖ ❖ ❖ ❖ ❖

I. The name of the Company is **MIN MYAT GONE COMPANY LIMITED**

II. The registered office of the Company will be situated in the Union of Myanmar.

III. The liability of the members is limited.

IV. The authorised capital of the Company is Ks- **500,000,000** /-(Kyats **Five Hundred Million** Only ) divided into **5000** ) shares of Ks. **100000.00** /-(Kyats **One Hundred Thousand** Only ) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

## he Objective for which the Company is established are-

cultural and farm produces.
est products and value-added wood-based products.
imal by-products and Animal feed.
ine products.
tilizer and insecticides.
emicals and dyes.
tory utencils and raw material.
sehold goods.
sonal goods.
nstruction materials and paints.
ectrical and electronic products.
hicles, Machinery and spares.
ols and implement.
edicines and medical equipment.
odstuff and general merchandise.
xtile and garment.
per, stationery and photographic stores.
fice equipment and educational supplies.
owing, producing, harvesting, preserving, packing, milling and manufacturing of agricultural and farm products.
ll extracting (with the permission from the authorities concerned) milling, manufacturing, preserving and seasoning
timber(excluding-teak) and forest products.
vestock breeding, processing and canning of livestock products.
ishing, preserving, milling, canning and processing of marine products.
roducing fertilizers, insecticides and animal feeds.
anufacturing of personal goods.
anufacturing of household goods.
nufacturing of vehicles, machineries and spares.
anufacturing of arts and crafts, lacquerwares and furniture.
anufacturing of construction materials and paints.
anufacturing of factory utencils.
anufacturing of electrical and electronic goods.
anufacturing of textile, garments and clothing.
carry on the business of explanation, exploitation, production, processing of minerals and marketing of its products
th the permission of the Government.
l kinds of agency business, technical consultants, business consultants, management consultants and advisory services.
dvertising and its agency business.
siness of entertainments and related activities.
siness of all kinds of medical services.
siness of transportation (except railways and airways)
s of printing and publishing.
siness of surveying and inspection.
siness of feasibility study on new projects, projects formulation, project appraisal and project evaluation.
siness of Account writing, Auditing and legal advisory services.
siness of servicing, maintenance of repairing of all kinds of vehicles and machines.
siness of installation, maintenance and renovation of electrical and electronic goods.
nstruction.
ems.
ravel And Tours.
otels
Micro Finance .

borrow money for the benefit of the Company's business from any person, firm, company, bank of financial zation in the manners that the Company shall think fit.

o:- *Provided that the Company shall not exercise any of the above objects whether in the Republic of the Union of Myanmar or elsewhere,save in so far as it may be entitled so as to do in accordance with the Laws,Orders and Notifications in force from time to time and then only subject to such permission and or approvals as may be prescribed by the Laws. Orders and Notifications of the Republic of the Union of Myanmar for the time being in force.*

We, the several persons, whose names, nationalities, addresses and descriptions are subscribed [b]low, are desirous of being formed into a Company in pursuance of this Memorandum of Association, [an]d we respectively agree to take the number of shares in the Capital of the Company set opposite our [res]pective names.

| | Name, Address and Occupation of Subscribers | Nationality & N.R.C No. | Number of Shares taken | Signatures |
|---|---|---|---|---|
| 1 | U Saw Thein Zaw Min<br>Merchant<br>No.(4/A) 1096, No.(4) Quarter , Man Aye Myaing Street & Myittar Street , Hpa-An Township, Kayin State. | 3/ Ba Ah Na (Naing) 184098 | 500 | (signed) |
| 2 | Daw Nan Yin Yin Htwe<br>Merchant<br>No.(4/A) 1096, No.(4) Quarter , Man Aye Myaing Street & Myittar Street , Hpa-An Township, Kayin State. | 3/ Ba Ah Na (Naing) 163979 | 300 | |
| 3 | U Thant Zin Soe<br>Merchant<br>No.(9) Quarter , Pa Oh Community , Hpa-An Township, Kayin State. | 12/ Pa Za Ta (Naing) 007166 | 200 | Thant |

[Kay]in State Dated 1 the 18th day of 2017

[It is] hereby certified that the persons mentioned above [put] their signatures in my presence.

# THE MYANMAR COMPANIES ACT

## PRIVATE COMPANY LIMITED BY SHARES

## Articles Of Association

## OF

# MIN MYAT GONE COMPANY LIMITED

The regulations contained in Table 'A' in the First Schedule to the Myanmar Companies Act shall apply to the Company save in so far as such regulations which are inconsistent with the following Articles. The compulsory regulations stipulated in Section 17 (2) of the Myanmar Companies Act shall always be deemed to apply to the Company.

## PRIVATE COMPANY

The Company is to be a Private Company and accordingly following provisions shall have effect:-

*(a) The number of members of the Company, exclusive of persons who are in the employment of the Company, shall be limited to fifty.*

*(b) Any invitation to the public to subscribe for any share or debenture or debenture stock of the Company is hereby prohibited.*

## CAPITAL AND SHARES

The Authorised Capital of the Company is Ks. **500,000,000** /-(Kyats **Five Hundred Million** only ) divided into ( **5000** ) shares of **100000.00** /-(Kyats **One Hundred Thousand** only ) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

Subject to the provisions of the Myanmar Companies Act the shares shall be under the control of the Directors, who may allot or otherwise dispose of the same to such persons and on such terms and conditions as they may determine.

The certificate of title to share shall be issued under the Seal of the Company, and signed by the General Manager or some other persons nominated by Board of Directors. If the share certificate is defaced, lost or destroyed, it may be renewed on payment of such fee, if any, and on such terms, if any, as to evidence and indemnity as the Directors may think fit. The legal representive of a deceased member shall be recognized by the Directors.

...rectors may, from time to time make call upon the members in respect of any money unpaid on ...hares, and each member shall be liable to pay the amount of every call so made upon him to ...rsons, and at the times and places appointed by the Directors. A call may be made payable by ...ments or may be revoked or postponed as the Directors may determine.

## DIRECTORS

...ss otherwise determined by a General Meeting the number of Directors shall not be less than ... ) and not more than ( 50 ).

...First Directors shall be:-

... ) U Saw Thein Zaw Min ( 3 ) U Thant Zin Soe

... ) Daw Nan Yin Yin Htwe

...irectors may from time to time appoint one of their body to the office of the Managing Director ...ch terms and at such remuneration as they think fit and he shall have all the powers delegated ... by the Board of Directors from time to time.

...qualification of Director shall be the holding of at least ( - ) shares in the Company in his or her ...e and it shall be his duty to comply with the provision of Section (85) of the Myanmar Companies ...

...Board of Directors may in their absolute and uncontrolled discretion refuse to register any proposed ...sfer of shares without assigning any reason.

## PROCEEDINGS OF DIRECTORS

...Director may meet together for the despatch of business, adjourn and otherwise regulate their ...ting as they think fit and determine the quorum necessary for the transaction of business. Unless ...rwise determined, two shall form a quorum. If any question arising at any meeting the Managing ...tor's decision shall be final. When any matter is put to a vote and if there shall be an equality of ...s, the Chairman shall have a second or casting vote.

...Director may at any time summon a meeting of Directors.

...olution in writing signed by all the Directors shall be as effective for all purposes ...ution passed out at meeting of the Directors, duly called, held and constituted.

## POWERS AND DUTIES OF DIRECTORS

Without prejudice to the general power conferred by Regulation 71 of the Table "A" of the Myanmar Companies Act, it is hereby expressly declared that the Directors shall have the following powers, that is to say power;-

(1) To purchase or otherwise acquire for the Company any property, rights or privileges which the Company is authorized to acquire at such price, and generally on such terms and conditions as they think fit: also to sell, lease, abandon or otherwise deal with any property, rights or privileges to which the Company may be entitled, on such terms and conditions as they may think fit.

(2) To raise, borrow or secure the payment of such sum or sums in such manner and upon such terms and conditions in all respects as they think fit and in particular by the issue of debentures or debenture stocks of the Company charged upon all or any part of the property of the Company (both present and future) including its uncalled capital for the time being,

(3) At their discretion, to pay for any rights acquired or services rendered to the Company, either wholly or partially in cash or in shares, bonds , debentures or other securities of the Company and any such shares may be issued either as fully paid up or with such amount credited as paid up there on as may be agreed upon ; and any such bonds, debentures or other securities may be either specifically charged up on all or any part of the property of the Company and its uncalled capital or not so charged.

(4) To secure the fulfillment of any contract or engagement entered into by the Company by mortgage or charge upon all or any of the property of the Company and its uncalled capital for the time being or by granting calls on shares or in such manner as they may think fit.

(5) To appoint at their discretion, remove or suspend such Managers, Secretaries, Officers, Clerks, Agents and Servants for permanent, temporary or special services as they may from time to time think fit and, to determine their duties and powers and fix their salaries or emoluments and to require security in such instances in such amount as they think fit and to depute any officers of the Company to do all or any of these things on their behalf.

(6) To appoint a Director as Managing Director, General Manager, Secretary or Departmental Manager in conjunction with his Directorship of the Company.

(7) To accept from any member on such terms and conditions as shall be agreed on the surrender of his shares or any part thereof.

(8) To appoint any person or persons to accept and hold in trust for the Company any property belonging to the Company or in which it is interested or for any other purposes and to execute and do all such deeds and things as may be requisite in relation to any such trust.

(9) To institute , conduct , defend of abandon any legal proceedings by or against the Company or its officers or otherwise concerning the affairs of the Company and also to compound and allow time for payment or satisfaction of any debts due to or of any claims and demands by or against the Company.

(10) To refer claims and demands by or against the Company to arbitration and to observe and perform the awards.

(11) To make and give receipts, releases and other discharges for money payable to the Company and for the claims and demands of the Company.

(12) To act on behalf of the Company in all matters relating to bankruptcy and insolvency.

(13) To determine who shall be entitled to sign bills of exchange, cheques, promissory notes, receipts, endorsements, releases contracts and documents for or on behalf of the Company.

(14) To invest, place on deposit and otherwise deal with any of the moneys of the Company not immediately required for the purpose thereof , upon securities or without securities and in such manners as the Directors may think fit, and from time to time vary or realize such investments.

(15) To execute in the name and on behalf of the Company in favor any Director or other person who may incur or be about to incur any personal liability for the benefit of the Company, such mortgages of the Company's property (present and future) as they think fit and any such mortgage may contain a power of sale and such other powers, covenants and provisions as shall be agreed on.

(16) To give any officer or other person employed by the Company a commission on the profits of any particular business or transaction or a share in the general profit of the Company and such commission or share of profit shall be treated as part of the working expenses of the Company.

(17) From time to time, to make, vary and repeal bye- laws for the regulation of the business of the Company, the officers and servants or the members of the Company or any section thereof.

(18) To enter into all such negotiations and contracts and rescind and vary all such contracts and execute and do all such acts , deeds and things in the name and on behalf of the Company as they may consider expedient for or in relation to any of the matter aforesaid or otherwise for the purposes of the Company.

(19) To borrow money for the benefit of the Company's business from any person, firm or company or bank or financial organization of local and abroad in the manner that the Directors shall think fit .

15. A general meeting shall be held within eighteen months from the date of its incorporation and thereafter at least once in every calendar year at such time (not being more than fifteen months after the holding of the last preceding general meeting ) and places as may be fixed by the Board of Directors. No business shall be transacted at any general meeting unless a quorum of members is presented at the time when the meeting proceeds to business, save as herein otherwise provided Member holding not less than 50 percent of the issued shares capital (not less than two members ) personally present, shall form a quorum for all purposes. And if and when in the case of there are only two number of members in the Company, those two members shall form a quorum.

## DIVIDENDS

16. The Company in general meeting may declare a dividend to be paid to the members, but no dividend shall exceed the amount recommended by the Directors .No dividends shall be paid otherwise than out of the profits of the year or any other undistributed profits.

## OFFICE STAFF

17. The Company shall maintain an office establishment and appoint a qualified person as General Manager and other qualified persons as office staffs . The remunerations and allowances such as salaries , travelling allowances and other expenditures incidental to the business shall be determined by the Board of Directors, and approved by the general meeting .The General Manager shall be responsible for the efficient operation of the office in every respect and shall be held accountable at all times to the Managing Director.

## ACCOUNTS

The Directors shall cause to be kept proper books of account with respect to:-

*(1) all sums of money received and expended by the Company and the matters in respect of which the receipts and expenditures take place:*

*(2) all sales and purchases of goods by the Company ;*

*(3) all assets and liabilities of the Company.*

19. The books of account shall be kept at the registered office of the Company or at such other place as the Directors shall think fit and shall be opened to inspection by the Directors during office hours.

## AUDIT

20. Auditors shall be appointed and their duties regulated in accordance with the provisions of the Myanmar Companies Act or any statutory modifications thereof for the time being in force.

## NOTICE

21. A notice may be given by the Company to any member either personally or sending it by post in a prepaid letter addressed to his registered address.

## THE SEAL

22. The Directors shall provide for the safe custody of the Seal, and the Seal shall never be used except by the authority of the Directors previously given, and in the presence of one Director at least, who shall sign every instrument to which the Seal is affixed.

## INDEMNITY

23. Subject to the provisions of Section 86 (C) of the Myanmar Companies Act and the existing laws, every Director, Auditor, Secretary or other officers of the Company shall be entitled to be indemnified by the Company against all costs, charges. losses, expenses and liabilities incurred by him in the execution and discharge of the duties or in relation thereto.

## WINDING - UP

24. Subject to the provisions contained in the Myanmar Companies Act and the statutory modification thereupon, the Company may be wound up voluntarily by the resolution of General Meeting.

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Articles of Association, and we respectively agree to take the number of shares in the Capital of the Company set opposite our respective names.

| Sr | Name, Address and Occupation of Subscribers | Nationality & N.R.C No. | Number of Shares taken | Signatures |
|---|---|---|---|---|
| 1 | U Saw Thein Zaw Min<br>Merchant<br>No.(4/A) 1096, No.(4) Quarter, Man Aye Myaing Street & Myittar Street, Hpa-An Township, Kayin State. | 3/ Ba Ah Na (Naing) 184098 | 500 | |
| 2 | Daw Nan Yin Yin Htwe<br>Merchant<br>No.(4/A) 1096, No.(4) Quarter, Man Aye Myaing Street & Myittar Street, Hpa-An Township, Kayin State. | 3/ Ba Ah Na (Naing) 163979 | 300 | |
| 3 | U Thant Zin Soe<br>Merchant<br>No.(9) Quarter, Pa Oh Community, Hpa-An Township, Kayin State. | 12/ Pa Za Ta (Naing) 007166 | 200 | |

Kayin State Dated 1 the 18th day of 2017

It is hereby certified that the persons mentioned above put their signatures in my presence.